بسم الله الرحمن الرحيم

မော်လာနာ မုဟမ္မဒ် အိရ်ဖားန် (ကာစေ့မီ) (ဗလီရှေ့ဆောင်ဆရာ) ကို ကျွန်တော်လွန်ခဲ့သည့် (၄)နှစ်ခန့်ကတည်းက အွန်လိုင်းမှတဆင့် ရင်းနှီးခဲ့ပါသည်။ မျိုးဆက်သစ် လူငယ်တစ်ယောက်ဖြစ်ပြီး ဖော်ရွေမှုနှင့် တက်ကြွမှုကိုကြည့်ပြီး အနာဂတ်အတွက် အွမ္မသ်၏ အားကိုးထိုက်သူအဖြစ် တွေ့ခဲ့ရပါသည်။ စာကြောင်းပေကြောင်း အမြဲဆွေးနွေးလေ့ရှိသောကြောင့်လည်း ပညာကို အလွန်လိုလားသူအဖြစ် တွေ့ခဲ့ရပါသည်။

လွန်ခဲ့သည့် (၁)နှစ်ခန့်ကတည်းက မော်လာနာက မိမိစုစည်းတင်ပြထားသော ဟဒီးဆ်တော်(၄၀)ဆိုင်ရာ ကျမ်းငယ်တစ်ခုကို ဖတ်ရှုပေးပြီး အမှာစာပါ ရေးသားပေးဖို တောင်းဆိုလာခဲ့ပါသည်။

ကျွန်ုပ်အနေဖြင့် မော်လာနာဆပ် စုစည်းတင်ပြထားသည့် ကျမ်းငယ်ကို အချိန်ယူလေ့လာခဲ့ပါသည်။ မော်လာနာ၏ ကလောင်တွင် စိတ်စေတနာဖြူစင်ခြင်း၊ အွမ္မသ်အတွက် သောကထားခြင်းနှင့် မိမိသိရှိသမျှ အွမ္မသ်ကို ပို့ချလိုသည့် စိတ်ဓါတ် စသည်တိုကို တွေ့ရှိခဲ့ရပါသည်။

ဤကျမ်းငယ်သည် မော်လာနာဆပ်ပထမဆုံး စုစည်းတင်ပြထားသည့် ကျမ်းငယ်ဖြစ်ရာ လိုအပ်ချက်များ၊ အားနည်းချက်များ ရှိကောင်းရှိနိုင်ပါမည်။ ထိုကဲ့သိုသော လိုအပ်ချက်များ၊ အားနည်းချက်များကို ကျွန်ုပ်တို စာဖတ်ပရိသတ်မှ တတ်စွမ်းနိုင်သရွေ့ မော်လာနာဆပ်ကို ဝိုင်းဝန်း တင်ပြပေးနိုင်ပါသည်။

အရှင်မြတ် မော်လာနာဆပ်၏ သာသနာရေးဆိုင်ရာ ကြိုးပမ်းမှုတိုင်းကို အထူးပဲ လက်ခံ သဘောတူတော်မူပါစေ။ ဆက်လက်ပြီး သာသနာကြိုးပမ်းမှုများကို ဆောင်ရွက်နိုင်စွမ်း ချီးမြှင့်ပေးသနားတော်မူပါစေ။ ဤ

ကျမ်းငယ်ကိုလည်း အွမ္မသ်အတွက် အကျိုးထူးများ ပေးစွမ်းနိုင်မည့် ကျမ်းငယ် အဖြစ် အရှင်မြတ် သဘောတူတော်မူပါစေ။ အာမီးန်

**မုဟမ္မဒ် အာစွင်းမ် (နဒ်ဝီ၊အဇ္ဇလ်ဟာစနီ၊မဇွာဟေ့ရီ)**

ဟစ်ဂျ်ရီ(၁၄၄၄)ခု၊ဂျိုမာဒလ် အုခ်ရာလ( ၁၅)ရက်

ခရစ်နှစ် (၂၀၂၃)ခုနှစ်၊ ဇန္နဝါရီလ(၈)ရက်

(တနင်္ဂနွေနေ့)

(ခေတ္တ)မဒီနာရွှေမြို့တော်

# နိဒါန်း

الحمد لله الذي أبدع الأفلاك والأرضين، والصلاة والسلام على من كان نبيًّا وآدم بين الماء والطين.

မအာရိဖွလ်ကုရ်အာန်ကျမ်းထဲ၌ အေမာမ်ဇိုဟာဗီ (﵀) သခင်နှင့် ဟာဇရသ် အင်မ်ရားန်ဗင်န် ဟူစိုင်န် (﵁) သခင်နှစ်ပါးက ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ်(ﷺ)အမိန့်ရှိတော်မူသည်မှာ ကေယာမသ်နေ့တွင် သာသနာ့ပညာနှင့် သာသာနာ့ပညတ်ချက်များကို ရေးသားတင်ပြထားသော အာလင်မ် သာသနာ့ပညာရှင်များ၏ မှင်နှင့် ရှဟီဒီများ၏သွေးကို ချိန်တွယ်စေမည်။ ထိုအခါ အာလင်မ်များ၏ မှင်၏အလေးချိန်သည် ရှဟီဒီများ၏ သွေး၏ အလေးချိန်ထက် အလေးချိန်စီးသွားလိမ့်မည်။ ( မအာရိဖွလ် ကုရ်အာန် )

ကျွန်တော်သည် ဤဟဒီးဆ်တော်ကို လေ့လာသိရှိရပြီးနောက် အလ္လာဟ်အရှင်မြတ်ထံမှ စဝါးဗ်ကုသိုလ်ကို မျှော်ကိုးလျက် သာသနာ့စာပေ ရေးသားချင်စိတ်များ တဖွားဖွားဖြစ်ပေါ်လာပါသည်။ ဤအတွက်ကြောင့် ကျွန်ုပ်လေ့လာနေသည့် ကျမ်းတစ်စောင်ဖြစ်သည့် “ နဖ်ဟာသွလ်အရဗ် ” ကျမ်းစာထဲမှ “ختامه مسك” အမည်ဖြင့် ဟဒီးဆ်တော် (၄၀) အား ကျွန်ုပ်လက်လှမ်းမှီသလောက် လေ့လာထားသောကျမ်းစာများအား မှီငြမ်း၍ ရှင်းလင်းချက်များအား ဖြည့်စွက်ရေးသားထားပါသည်။ လူသားတစ်ဦးဖြစ်သည့်အားလျော်စွာ စီလျော်မှုမရှိကြောင်းနှင့် အမှားများကင်းမည်မဟုတ်ကြောင်းကိုလည်း ရိုးသားစွာဝန်ခံလိုပါသည်။ ဤစာအုပ်ငယ်၌ရေးသားတင်ပြထားသော ဟဒီ.စ်တော်အတို(၄၀)သည် တမန်တော်မြတ် (ﷺ)ဟဒီဆ်တော်များမှ ကောက်နှုတ်ထားခြင်းဖြစ်ပါသည်။ ဟဒီးဆ်တော်တစ်ခုတိုင်းသည်

အီမာန့်ရှင်တိုင်းအတွက် ဒွန္နယာ၊ အာခေရသ်အကျိုးဖြစ်ထွန်းစေပြီး တရား လမ်းမှန်ရရန်အတွက် အကြောင်းခံများ ဖြစ်ပါသည်။ "ختامه مسك" ဆိုသည့် အမည်နှင့်အညီ ဤဟဒီးဆ်တော်များအား လက်တွေ့ကျင့်သုံးသောသူ၏ နိဂုံးချုပ်အဆုံးသတ်သည် ကတိုးကဲ့သို့ မွှေးကြိုင်နေမည်ဖြစ်ပါသည်။ မွတ်စ်လင်မ်အမျိုးသား၊ အမျိုးသမီး အားလုံးတို့အား ကျန်ရှိသော သက်တမ်း တွင် အရှင့်အမိန့်နာခံခြင်းဖြင့်သာ အချိန်များကို ကုန်ဆုံးနိုင်စွမ်း ပေးသနား တော်မူပါစေ။ ထို့နောက်ဤစာအုပ်ငယ်လေးဖြင့် အလ္လာဟ်အရှင်မြတ် မွတ်စ်လင်မ်ထုတစ်ရပ်လုံးကို အကျိုးဖြစ်ထွန်းစေတော်မူ၍ ဤစာအုပ်ကို ဖတ်ရှုသူ၊ လိုက်နာသူ၊ ရေးသားသူနှင့် စာအုပ်ဖြစ်မြောက်ရေးတွင် ဝိုင်းဝန်း ကူညီသူများအားလုံးကို မြင့်မြတ်တော်မူသော အရှင်မြတ် နှစ်ဌာနလုံးတွင် ကောင်းသောအစားများ ချီးမြှင့်ပေးသနားတော်မူပါစေ။

မုဟမ္မဒ်အစ်ရ်ဖားန်(သထုံ)

بسم الله الرحمن الرحيم

ختامه مسكٌ

# ၎င်း၏နိဂုံးချုပ်(အဆုံးသတ်)သည် ကတိုးကဲ့သို့ မွှေးကြိုင်လိမ့်မည်။

قال رسولُ الله -صلى الله عليه وسلم-: "ما تعدُّون الصُّرَعَةَ فيكم؟ " قالوا: الذي لا يصرعُهُ الرجالُ، قال: "لا، ولكنه الذي يملِكُ نفسه عندَ الغضبِ".

**سنن أبي داود. ت: الأرنؤوط (٧/ ١٥٩).**

(၁) ကိုယ်တော်မြတ်ﷺက အမိန့်ရှိတော်မူသည်မှာ အသင်တို့သည် မိမိတို့ အချင်းချင်းကြား၌ မည်သူ့ကို သူရဲကောင်းဟု သတ်မှတ်ကြလေသနည်း? ဆွာဟာဗဟ် ﷽ သခင်များက လျှောက်ထားကြသည်မှာ လူတို့က ၎င်းအား မြေပေါ်သို့ မလှဲချနိုင်သောသူဖြစ်သည်။ ဆိုလိုသည်မှာ တိုက်ခိုက် ရာ၌ မည်သူမှမယှဉ်နိုင်သောသူကို ဆိုလိုခြင်းဖြစ်သည်ဟု ဖြေကြားကြ လေသည်။ ထိုအခါ ကိုယ်တော်မြတ် ﷺ က အမိန့်ရှိတော်မူသည်မှာ ထိုသို့ အလျဉ်း မဟုတ်ပေ သတ္တိရှိပြီး ရဲရင့်သောသူဆိုသည်မှာ ဒေါသဖြစ်သည့် အချိန်၌ မိမိကိုယ်မိမိ ထိန်းချုပ်နိုင်သူဖြစ်သည်ဟု အမိန့်ရှိတော်မူလေသည်။

## ရှင်းလင်းချက်

ဆိုလိုသည်မှာ လူအများ၏အမြင်၌ တိုက်ခိုက်ရာတွင် တခြားသူ တွေကို အနိုင်ရသူ (သို့မဟုတ်) တခြားသူတွေကို မြေပေါ်သို့ လှဲချပစ် နိုင်သောသူကို သတ္တိရှိသူဟု သတ်မှတ်ကြသည်။ အမှန်စင်စစ် သတ္တိရှိသော သူမှာ ဒေါသထွက်ချိန်၌ မိမိကိုယ်နှင့်စိတ်ကို ထိန်းချုပ်နိုင်သောသူဖြစ်သည်။

ဟဒီးဆ်တော်တစ်ခု၌ ကိုယ်တော်မြတ်က ဒေါသကိုထိန်းချုပ်ဖို့ ဒေါသကို ပြေပျောက်စေမည့် နည်းလမ်းကို အမိန့်ရှိတော်မူလေသည်။ ကိုယ်တော်မြတ် ﷺ က အမိန့်ရှိတော်မူ သည်မှာ -

"إذا غضب أحدكُم وهو قائِمٌ فليجلِسْ، فإن ذهبَ عنه الغضَبُ، وإلا فلَيْضطَجِع". **سنن أبي داود ت الأرنؤوط (١٦٢/٧)**.

"အသင်တို့ထဲမှ တစ်ဦးတစ်ယောက်သည် ဒေါသထွက်လာပါက မတ်တတ်ရပ်နေသော အဖြစ်၌ရှိလျှင် ထိုင်လိုက်ရမည်။ ဒေါသပြေသွားကောင်း ပြေသွားနိုင်ပါတယ်။ ဒေါသမပြေသေးပါက လှဲလျောင်းလိုက်ပါ။" **(မစ်ရှ် ကားသ်ကျမ်း၊ စာ ၄၃၄)**

နောက်ထပ် ဟဒီးဆ်တော်တစ်ရပ်၌ ကိုယ်တော်မြတ်သခင်က အမိန့်ရှိသည်မှာ ဒေါသသည် ရှိုင်တွာန်၏ (လှုံ့ဆော်မှု)ကြောင့် ဖြစ်သည်။ ရှိုင်တွာန်ကို မီးအဖြစ် ဖန်ဆင်းခဲ့သည်။ မီးကိုရေဖြင့် ငြိမ်းသက်နိုင်သည်။ သို့ဖြစ်ရာ အသင်တို့ထဲမှ တစ်ဦးတစ်ယောက်သည် ဒေါသထွက်သည့်အခါ ဝုဇူပြုသင့်သည်။ (အဗူဒါ ဝူးဒ်ကျမ်း၊ နံပါတ်-၄၇၈၄)

ကုရ်အာန်ကျမ်းမြတ်၌လည်း မိမိကိုယ်မိမိထိန်းချုပ် သောသူ ၎င်းနောက် ဒေါသကို မြိုသိပ်သောသူတို့နှင့်ပတ်သက်၍ ချီးမွမ်းထားလေသည်။

ကုရ်အာန်ကျမ်းတော်မြတ်၌ အလ္လာဟ်ရှင်မြတ်က အမိန့်ရှိတော်မူသည်မှာ-

الَّذِينَ يُنْفِقُونَ فِي السَّرَّاءِ وَالضَّرَّاءِ وَالْكَاظِمِينَ الْغَيْظَ وَالْعَافِينَ عَنِ النَّاسِ وَاللَّهُ يُحِبُّ الْمُحْسِنِينَ (سورة آل عمران: ١٣٤).

**အဓိပ္ပာယ်**

ထိုသူတော်စင်များသည် စီးပွားရေးချောင်လည်စွာရှိသော အချိန်အခါများ၌လည်းကောင်း ဆင်းရဲဒုက္ခ ရောက်ရှိသောအခါများ၌ လည်းကောင်း (အချိန်အခါမရွေး) ပေးကမ်းစွန့်ကြဲလှူဒါန်းကြကုန်၏။ (ထိုသူတော်စင်များသည်) အမျက်ဒေါသကို ချုပ်တည်းမြိုသိပ်သောသူများလည်း ဖြစ်ကြကုန်၏။ လူသားတို့အား ခွင့်လွှတ်သူများလည်း ဖြစ်ကြကုန်၏။ အမှန်စင်စစ် အလ္လာဟ်ရှင်မြတ်သည် (ယင်းသို့) ကောင်းမှုပြုလုပ်သောသူများအား နှစ်သက်တော်မူချေသတည်း။

(စူရဟ်အားလီအင်မ်ရာန်၊ အာယသ် ၁၃၄ )

**ရှင်းလင်းချက်**

"မွတ်သကီ" သူတော်စင်များ၏ ဂုဏ်ထူးဝိသေသများအနက် ဝိသေသတစ်ရပ်မှာ ထိုသူတော်စင်များသည် အမျက်ဒေါသကို ချုပ်တည်းနိုင်ခြင်းပင် ဖြစ်သည်။ "သတိတမံ ဉာဏ်မြေကတုတ် ပညာစွန်း ချွန်းကဲ့သို့ အုပ် " ဆိုသကဲ့သို့ ဆင်ကြီးနှင့်တူသောဒေါသကို ပညာဉာဏ်တည်းဟူ သော ချွန်းဖြင့် မအုပ်ထိန်းပါက လူကိုဘေးရန်ဖြစ်စေသကဲ့သို့ ဒေါသအမျက်ကို ဉာဏ်ပညာဖြင့် မချုပ်တည်းပါက အလွန်အကျွံဖြစ်စေတတ်သည်။ အမျက်ဒေါသကို ချုပ်တည်းနိုင်သောသူများနှင့် စပ်လျဉ်း၍ နဗီတမန်တော်မြတ်မုဟမ္မဒ်ﷺက ဤသို့မိန့်ကြားတော်မူလေသည်။ အကြင်သူသည် အမျက်ဒေါသအလျောက် ပြုမူစွမ်းနိုင်ပါလျက် အမျက်ဒေါသကို ချုပ်တည်းအံ့။ အလ္လာဟ်အရှင်မြတ်သည် ထိုသူ၏စိတ်နှလုံးကို အေးချမ်းမှုဖြင့်လည်းကောင်း၊ "အီမာန်"ယုံကြည်ခြင်း သဒ္ဒါတရားဖြင့်လည်းကောင်း ဖြည့်စွမ်းပေးတော်မူအံ့။

(ကုရ်အာန်ကျမ်းမြတ် မြန်မာဘာသာပြန်၊ တွဲ-၁၊ စာ ၃၅၃)။ အေမာမ်ဗိုင်ဟကီက ဤအာယသ်တော်၏ သဖ်စီးရ် (အကျယ်ဖွင့်ဆိုချက်)၌ ဟဇရသ် အလီဗင်န် ဟူစိုင်းန် ﷺ ၏ အံ့သြဖွယ်အကြောင်းအရာတစ်ခုကို ဆင့်ပြန်ထားပေသည်။ သခင်၏အခိုင်းအစေတစ်ယောက်သည် သခင့်အား ဝုဇူလုပ်ပေးနေလေသည်။ ရုတ်တရက် ရေခွက်သည် အခိုင်းအစေ၏လက်မှ လွတ်ကျ၍ သခင်ကိုယ်ပေါ်သို့ ကျသွားပြီး သခင်၏အဝတ်အထည်တစ်ခုလုံး စိုရွှဲသွားလေသည်။ (ဒေါသထွက်ခြင်းသည် လူသားဖြစ်သည့်အလျောက် ဗီဇတစ်ခု ဖြစ်လေသည်)။ အခိုင်းအစေသည် ကြောက်ရွံ့စိုးရိမ်သွားပြီး ချက်ချင်း ဤအာယသ်တော်ကို ဖတ်ရွတ်လေသည်။ وَالْكَاظِمِينَ الْغَيْظَ (ထိုသူတော်စင်များသည် အမျက်ဒေါသကို ချုပ်တည်း မြိုသိပ်သောသူများ ဖြစ်ကြ၏) ဤအာယသ်ကို ကြားပြီး ကိုယ်တော်မြတ်၏ အနွယ်တော်ဝင်တစ်ဦးဖြစ်သောကြောင့် သခင်၏ဒေါသအားလုံး ပြေငြိမ်းသွားပြီး လုံးဝတိတ်ဆိတ် ငြိမ်သက်သွားလေသည်။ ထို့နောက်မှာ အခိုင်းအစေက အာယသ်တော်၏ ဒုတိယစာပိုဒ် وَالْعَافِينَ عَنِ النَّاسِ (လူသားတို့အား ခွင့်လွှတ်သူများလည်းဖြစ်ကြ၏) ကို ဖတ်ရွတ်လေရာ သခင်က အမိန့်ရှိသည်မှာ ကျွန်ုပ်သည် အသင့်အား စိတ်ထဲကနေလည်း လှိုက်လှိုက် လှဲလှဲခွင့်လွှတ်ပါတယ်။ အခိုင်းအစေသည်လည်း ပါးနပ်သောသူ ဖြစ်သောကြောင့် အာယသ်တော်၏ တတိယစာပိုဒ် وَاللَّهُ يُحِبُّ الْمُحْسِنِينَ (အလ္လာဟ် ရှင်မြတ်သည် ကောင်းမှုပြုလုပ်သောသူများအား နှစ်သက်တော် မူပေသည်)ကို ဖတ်ရွတ်တော်မူပေသည်။ ယင်းအာယသ်တော်တွင် ကျေးဇူးပြုခြင်းနှင့် ကောင်းမွန်စွာ ဆက်ဆံခြင်းတို့နှင့် ပတ်သက်၍

ဟောဒါယသ်(တရားလမ်းမှန်) ပြထားပေသည်။ ဤစာပိုဒ်တော်ကို ကြား၍ သခင်က အမိန့်ရှိသည်မှာ "အသင်သွားလော့၊ ကျွန်ုပ်အသင့်ကို သူကောင်းပြု လိုက်ပြီ"ဟု အမိန့်ရှိလေ သည်။

(မအာရေ့ဖွလ်ကုရ်အာန်၊ အတွဲ ၂၊ စာ ၁၈၉ )



قَالَ رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: «لَا يَدْخُلُ الْجَنَّةَ الْجَوَّاظُ، وَلَا الْجَعْظَرِيُّ. مسند أبي يعلى الموصلي (٥٣/٣).

(၂) မာန်မာနထောင်လွှားသူများနှင့် အကျင့်စာရိတ္တယုတ်ညံ့သောသူသည် ဂျန္နသ် (သုခဘုံ)သို့ ဝင်ရောက်ရမည်မဟုတ်ပေ။

**ရှင်းလင်းချက်**

သက္ကဗ္ဗရ် (မာန်မာန)ဆိုသည်မှာ မိမိကိုယ်မိမိ တခြားသူများထက် မွန်မြတ်သည်ဟု မှတ်ယူ၍ တခြားသူများကို မိမိထက် သေးသိမ်သည်ဟု မှတ်ယူခြင်းဖြစ်သည်။ဟဇရသ်ဟစန်ဗင်န်အလီ (ﷺ)သခင်သည် အခင်းတစ်ခု ကိုခင်း၍ မုန့်အပိုင်းအစလေးများကိုတင်ပြီး စားသောက်နေကြသော ဆင်းရဲသား အုပ်စုတစ်စုအနားက ဖြတ်သွားလေသည်။ ၎င်းတို့က သခင့်အား သူတို့နှင့်အတူ စားသောက်ရန် ဖိတ်ခေါ်ကြလေသည်။ သခင်သည် အစီးအနင်းအပေါ်မှဆင်း၍ "ကျွန်ုပ်သည် မာန်မာနထောင်လွှားသူများကို မနှစ်သက်"ဟု အမိန့်ရှိပြီး ၎င်းတို့နှင့်အတူ ပါဝင်စားသောက်လေသည်။ စားပြီးနောက် မိမိနှင့်အတူ အားလုံးကို အိမ်သို့ခေါ်ဆောင်သွားပြီး အိမ်မှာရှိ သမျှအရာအားလုံးကို ကျွေးမွေးဧည့်ခံတော်မူလေသည်။

(သန်ဘီဟွလ်ဂါဖွေ့လီန်ကျမ်း၊ စာ ၁၄၃)

ကိုယ်တော်မြတ်(ﷺ)အမိန့်ရှိတော်မူသည်မှာ အကြင်သူ၏နှလုံးသား ထဲတွင် မုန်ညင်းစေ့ခန့် မာနတရားရှိပါက ထိုသူသည် ဂျန္နသ်သုခဘုံသို့ ဝင်ရောက် ရမည်မဟုတ်ပေ။ ပုဂ္ဂိုလ်တစ်ဦးက လျှောက်ထားသည်မှာ ကျွန်ုပ်သည် မိမိ၏ အဝတ်အစား၊ ဖိနပ်နှင့် တခြားအစရှိသောအရာများကို သစ်လွင်ကောင်းမွန်နေခြင်းအား နှစ်သက်ပါသည်။ ဤသည်လည်းပဲ မာန်မာန

မည်၏လော? အမိန့်ရှိသည်မှာ ဤသည်မာနထောင်လွှားမှုမဟုတ်ပေ။ အလ္လာဟ်ရှင်မြတ်သည် လှပတော်မူသောအရှင်ဖြစ်၍ လှပမှုကိုလည်း နှစ်သက်တော်မူပေသည်။ ၎င်းနောက် မိမိ၏အဖန်ဆင်းခံများအပေါ် နိအ်မသ်စည်းစိမ်၏ လက္ခဏာများ မြင်တွေ့ရခြင်းကိုလည်း နှစ်သက်လိုလားတော်မူ၏။ ချမ်းသာကြွယ်ဝပြီး ဆင်းရဲသားတို့အား လျစ်လျူရှုခြင်းကိုတော့ အလ္လာဟ်ရှင်မြတ်သည် နှစ်မြို့တော့်မမူပေ။ မာန်မာနဆိုသည်မှာ လူသားသည် တခြားသူအား သေးသိမ်သည်ဟု ထင်မြင်ယူဆခြင်းဖြစ်သည်။ အမိန့်ရှိတော်မူသည်မှာ အကြင်သူသည် မိမိဖိနပ်အား ကိုယ်တိုင်ကောင်းမွန်စွာ ဝတ်ဆင်ပြီး အဝတ်အစားတွေကို အလှအပချယ်သမည်၊ ၎င်းနောက် အလ္လာဟ်ရှင်မြတ်ကို စဂ်ျဒဟ်(ဦးချ)မည်ဆိုပါက ထိုသူသည် မာနတရားကနေ ကင်းလွတ်သည်ဟု သတ်မှတ်ရမည်။ (မာနကြီးသူဟု မထင်ရ )

(သန်ဘီဟွလ်ဂါဖွေ့လီန်ကျမ်း၊ စာ ၁၄၅ )

အလိုသဘောမှာ မာနနှင့် မကောင်းသောစာရိတ္တရှိသောသူသည် မိမိ၏ မကောင်းသောပြစ်မှုများကြောင့် ဂျဟန္နမ် (ငရဲမီး)၏အပြစ်ဒဏ်ကို မခံရမချင်း ဂျန္နသ်(သုခဘုံ)သို့ ဝင်ရောက်ရမည်မဟုတ်ပေ။ ဂျန္နသ်ထဲသို့ မဝင်ရောက်ရဟုဆိုရာ၌ (အပြစ်ဒဏ်မခံရသေးဘဲ) ဦးစွာ ဂျန္နသ်ထဲသို့ မဝင်ရခြင်းကို ဆိုလိုသည်။ အမြဲတမ်း ဘယ်သောအခါမှ ဂျန္နသ်ထဲသို့ မဝင်ရောက်ရဟု ဆိုလိုခြင်းမဟုတ်ပေ။

عن النبي -صلي الله عليه وسلم - قال: "المرء على دين خليله فلينظر أحدكم من يخالل." **مسند أحمد، ت: شاكر، (٣٠٧/٨)**.

(၃) လူသားသည် မိမိမိတ်ဆွေ၏လမ်းစဉ်အတိုင်း လျှောက်လှမ်းတတ်ကြသည်။ သို့ရှိရာ အသင်တို့အနက်မှ တစ်ဦးတိုင်းသည် မိမိမည်သူနှင့် မိတ်ဆွေဖွဲ့နေသည်ကို စဉ်းစားသုံးသပ်ရမည်။

**ရှင်းလင်းချက်**

အလိုသဘောမှာ လူသားသည် လောကတွင် မိမိအား အာခေရသ် (တမလွန်)အရေးကိစ္စတို့နှင့်ပတ်သက်သည့် လုပ်ငန်းဆောင် တာကိစ္စများ၌ အကူအညီပေးသူနှင့်သာ မိတ်ဆွေဖွဲ့သင့်ပေသည်။ သို့မှသာ ဆုံးနိဂုံးချုပ်တွင် ဆုံးရှုံးစရာ ဝမ်းနည်းစရာ ပူဆွေးမှုတို့နှင့် တွေ့ကြုံရမည်မဟုတ်ပေ။ အဘယ့်ကြောင့်ဆိုသော် လူသားသည် မိမိ၏မိတ်ဆွေ အပေါင်းအဖော် ဆောင်ရွက်သည့်အတိုင်း ပြုလုပ်တတ်ပေသည်။ ထို့ကြောင့် မိမိဖွဲ့လိုက်သည့်မိတ်ဆွေမှာ မိတ်ဆွေကောင်းဖြစ်ရန် အရေးကြီးပေသည်။

الوحدة خير من جليس السوء.

(မကောင်းသော မိတ်ဆွေအပေါင်းအသင်းထက် လူသားအဖို့ တစ်ကိုယ်တည်းနေခြင်းက ပို၍ကောင်းပါသည်။)

ဆိုလိုသည်မှာ လူသားအဖို့ တစ်ကိုယ်တည်းနေခြင်းကြောင့် အတင်းအဖျင်း ကုန်းချောခြင်း၊ ခိုက်ရန်ဖြစ်ပွားခြင်း၊ ပြဿနာအမျိုးမျိုးနှင့် ဆဲရေးတိုင်းထွာခြင်းတို့ကနေ မုချရှောင်ကြဉ်ပြီးသား ဖြစ်သွားလေသည်။ သို့သော် တစ်ခြားတစ်ဦးနှင့်ထိုင်မည်ဆိုပါက (မုချ)အခြားသူတစ်ဦး၏အတင်းအဖျင်း၊

ကုန်းချောမှု၊ ပြောင်လှောင်သရော်မှုတို့ကို ထုတ်ဖော်၍ အပျော်ကြူးတတ်ကြသည်။ အကယ်၍ အပေါင်းအဖော်သည် မကောင်းသောသူဖြစ်ပါက ယင်းအချက်သည် အလွန်အင်မတန် အရေးကြီးသော ပြဿနာဖြစ်ပါသည်။ အကြောင်းမှာ မိမိသည် ၎င်းသူနှင့်ပေါင်း၍ ရှိုင်တွာန်အကြိုက်ဆောင်မည့် လုပ်ငန်းများ၌ မွေ့လျော်လုံးပန်းသွားတတ်ပေသည်။ ဒီအတွက်ကြောင့် မကောင်းသော မိတ်ဆွေအပေါင်းအသင်းထက် တစ်ကိုယ်တည်းနေခြင်းက ပို၍ကောင်းပါသည်။

(ဟာဒိယသုလ်လစ်သွာလိဗီးန်းကျမ်း၊ စာ ၉၄ )

မကောင်းသောအပေါင်းအသင်းကိုရွေးချယ်မည့်အစားအဲဟ်လွလ္လာဟ် (အလ္လာဟ်ရဲ့အချစ်တော်)များကို မိတ်ဆွေဖွဲ့ဖို့ရွေးချယ်မည်ဆိုပါက မိမိ၏နောက်ဆုံးထွက်သက်နိဂုံးချုပ်တွင် ကလိမဟ်ရှဟာဒယ်၏ နဆီးဗ်(နဖူးစာ) ရရှိနိုင်ပေသည်။ ကြီးကျယ်မြင့်မြတ်တော်မူသော အလ္လာဟ်ရှင်မြတ်က ကုရ်အာန်ကျမ်းတော်မြတ်၌ အမိန့်ရှိတော်မူသည်မှာ-

يَاأَيُّهَا الَّذِينَ آمَنُوا اتَّقُوا اللَّهَ وَكُونُوا مَعَ الصَّادِقِينَ (التوبة: ١١٩).

အိုအီမာန် သက်ဝင်ယုံကြည်သူအပေါင်းတို့! အသင်တို့ အလ္လာဟ်ရှင်မြတ်ကို ကြောက်ရွံ့ကြလေကုန်။ ၎င်းနောက် မှန်ကန်တိကျပြီး သစ္စာသမာဓိရှိသော သူမွန်သူမြတ်တို့နှင့် အတူရှိကြလေကုန်။

(စူရ်ဟ်သောင်ဗဟ်၊ စာ ၁၁၉)

သူတော်စင်တို့၏ ထိုင်ဝိုင်းကို ရွေးချယ်ပါက ထို ထိုင်ဝိုင်းကြောင့် ဗန္ဒာဟ် သည် နောက်ဆုံးထွက်သက်၌ ကလိမာဟ် ဖတ်နိုင်သည့်စွမ်းအားရရှိသွားပေ သည်။ ဟာဇရသ်မောင်လာနာ မိုဟမ္မဒ် မွဖ်သီရှဖီးအ်သခင်က

အမိန့်ရှိသည်မှာ ကျွန်ုပ်က ဟာဇရည်မောင်လာနရူမီ၏ ဖာရစီ ကဗျာတစ်ပုဒ်ကို ရွတ်ဖတ်လေသည်။ အလိုသဘောမှာ အလ္လာဟ့်အချစ်တော် သူတော်စင်တို့၏ ထိုင်ဝိုင်း၌ ခေတ္တခဏထိုင်ခြင်းသည် ရေယာ(ပြစားမှု)မပါဘဲ နှစ်ပေါင်း (၁၀၀) အေဗာဒသ်လုပ်ခြင်းထက် သာပိုမွန်မြတ်ပေသည်။

(ခွတ်သ်ဗားသိဖကီးရ်၊ အတွဲ ၂၇၊ စာ ၂၅၅ )

~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~

إِنّ رَسُولَ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ، قَالَ: «مِنْ شَرِّ النَّاسِ ذُو الْوَجْهَيْنِ الَّذِي يَأْتِي هَؤُلاءِ بِوَجْهٍ، وَهَؤُلاءِ بِوَجْهٍ». **شرح السنة للبغوي (١٣/ ١٤٥)**.

(၄) လူသားတို့အနက် အဆိုးဆုံးသောသူမှာ မျက်နှာ(၂)မျိုးနှင့် သွားလာနေသူဖြစ်သည်။ ထိုသူသည် အချို့သူတို့ထံ မျက်နှာတစ်မျိုးဖြင့် သွားလာ၍ အချို့သူတို့ထံ နောက်ထပ်မျက်နှာတစ်မျိုးဖြင့် သွားလာလေသည်။

## ရှင်းလင်းချက်

မုနာဖစ်က် ကဲ့သို့အရေခြုံထားပြီး အများအကြိုက်ဆောင်သောသူများအဖို့ ပြင်းထန်သော သတိပေးခြိမ်းခြောက်မှုများ လာရှိထားပေသည်။ အကြောင်းမှာ ထိုသူတို့သည် လူတိုင်းအား ပျော်ရွှင်အောင်လုပ်ဖို့ ရည်ရွယ်ချက်ဖြင့် ဘယ်သောအခါမှ မှန်ကန်တိကျသည့်စကားကို မပြောဆိုပေ။ လူတိုင်း၏ထံ၌ မိမိ၏ကောင်းကျိုးရရန်၊ ဂုဏ်ပေးလေးစားမှုရရန် အတွက် မည်သည့်အသင်းအဖွဲ့ လူပုဂ္ဂိုလ်၏ရှေ့ဝယ် ၎င်းတို့ လိုလား နှစ်သက်သော စိတ်ကျေနပ်စေမည့် စကားများကိုသာ မိမိနှုတ်လျှာမှ ဖွင့်ဟလေ့ရှိသည်။ ဤသို့သောသူများသည် ယုတ်ညံ့သိမ်ဖျင်းသူများ ဖြစ်လေသည်။

အစ္စလာမ်သာသနာတော်၌ လူတိုင်းနှင့် သင့်မြတ်စွာဆက်ဆံရမည်မှာ အမှန်ပင်ဖြစ်သည်။ သို့သော် ပုဂ္ဂိုလ်တစ်ဦးသည် ရှရီအသ် တရားတော်နှင့် ဆန့်ကျင်ဘက်အရာများ လုပ်ဆောင်နေပါက ၎င်းသူနှင့် လောကီရေးအရ ဆက်ဆံရေး ပျက်ပြားသွားမည်ကို စိုးရိမ်၍ ၎င်းလုပ်ဆောင်နေသော မကောင်းမှုများကို တားမြစ်ခြင်း မပြုဘဲလစ်လျူရှု မထားသင့်ပေ။ အဘယ်ကြောင့်ဆိုသော် ရှရီအသ် တရားတော်မြတ်၌ အမရ်ဘစ်လ်မအ်ရူးဖ် နဟီ

အနစ်လ်မွန်ကရ် (ကောင်းရာညွှန်ကြား မကောင်းရာကို မြစ်တားသည့် အလုပ်) သည် လူတိုင်း၏ အမလ်ကျင့်စဉ်များ၏ ခေါင်းစဉ်များဖြစ်ပါသည်။ ဤမည်သည့်အလုပ်ကို အကြောင်းခံ၍ အွမ္မသိမုဟမ္မဒိယာဟ် (တမန်တော်မြတ် (ﷺ) ၏ အွမ္မသ် (နောက်လိုက်) သားတို့သည် ခိုင်ရ္ခလ်အွမ္မသ် (အမြင့်မြတ်ဆုံး အွမ္မသ်)ဆိုသော ဘွဲ့ထူးဂုဏ်ထူးဝိသေသကိုရရှိခဲ့ကြောင်း ကုရ်အာန်ကျမ်းတော်မြတ်၌ အလ္လာဟ်ရှင်မြတ်အမိန့်ရှိတော်မူထားပါသည်။

كُنْتُمْ خَيْرَ أُمَّةٍ أُخْرِجَتْ لِلنَّاسِ تَأْمُرُونَ بِالْمَعْرُوفِ وَتَنْهَوْنَ عَنِ الْمُنْكَرِ وَتُؤْمِنُونَ بِاللَّهِ.

(အိုး မွတ်စ်လင်မ်အပေါင်းတို့) အသင်တို့သည် လူသားတို့အဖို့ (တရားဓမ္မညွှန်ကြားရန်အလို့ငှာ) ထွက်ပေါ်လာကြကုန်သော အကောင်းဆုံးသော အစ္စလာမ်သာသနာဝင် လူစုပင်ဖြစ်သည်။ (အကြောင်းသော်ကာ) အသင်တို့သည် ကောင်းမြတ်သော ကိစ္စများကို (ပြုလုပ်ကြရန်) ညွှန်ကြားကြသည့်အပြင် စက်ဆုပ်ရွံရှာဖွယ်ရာများမှလည်း မြစ်တားကြ ကုန်၏။ ထိုမှတစ်ပါး အသင်တို့သည် အလ္လာဟ်ရှင်မြတ်ကိုလည်း ယုံကြည်ကြကုန်၏။

(စူရဟ် အာလိအင်မ်ရာန်၊၁၁၀)

ဟဇရသ် အနက်စ်(ﷺ)သခင်ကဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် (ﷺ)ကအမိန့်ရှိတော်မူသည်။ အသင်တို့အား ဤသို့ထူးမြတ်သည့် ပုဂ္ဂိုလ်များကို မပြောပြရဘူးလား။ ၎င်းတို့သည် နဗီလဲမဟုတ်၊ ရှဟီဒီများလည်းမဟုတ်ကြ သို့သော် ၎င်းတို့သည် ကေယာမသ်နေ့တွင် အလ္လာဟ်အရှင်မြတ်၏ ထံတော်ပါးတွင် ဤသို့မြင့်မားသော အဆင့်အတန်းကို ရရှိကြမည်။ ထိုသူများကို မြင်တွေ့၍ နဗီနှင့် ရှဟီဒီများလည်း အားကျကြမည်။ ၎င်း

တို့သည် နူရ်ဖြင့် ပြုလုပ်ထားသော မင်န်ဗရ်ပေါ်တွင် ရှိနေကြမည်။ ဆွဟာဗဟ်များက အို-အလ္လာဟ်အရှင်၏တမန်တော် ထိုသူတို့သည် မည်သူတို့ ဖြစ်ကြပါသနည်း။ အမိန့်ရှိသည့်မှာ ဤသူတို့သည် အလ္လာဟ်အရှင်၏ ဗန္ဒာဟ် ကျေးကျွန်များကို အလ္လာဟ်အရှင်မြတ်၏ အချစ်တော်ဖြစ်လာအောင် ပြုပေး ကြသည်။ (ကြိုးပမ်းဆောင်ရွက်ကြသည်) အလ္လာဟ်ရှင်မြတ်ကိုလည်း ၎င်းတို့ ၏ အချစ်တော်ဖြစ်အောင် ကြိုးပမ်းကြသည်။ ၎င်းတို့သည် လူတို့၏ အကျိုးကောင်းမှုကို သယ်ပိုး၍ မြေပထဝီ၌ သွားလာကြသည်။ ထိုအခါ ကျွန်တော်က မေးမြန်း လျှောက်ထားသည်မှာ အလ္လာဟ်အရှင်အား ၎င်းတို့၏ အချစ်တော်ဖြစ်အောင် ကြိုးပမ်းပြုပေးသည်ဆိုသည့် အချက်ကိုတော့ သဘောပေါက်ပါသည်။ သို့သော် အလ္လာဟ်အရှင့် ဗန္ဒာဟ်များကို အလ္လာဟ့် အချစ်တော်ဖြစ်အောင် မည်သို့ပြုပေးသည်ဆိုသည်ကို သဘော မပေါက်ပါ။ ထိုအခါ တမန်တော်မြတ် အမိန့်ရှိသည့်မှာ ဤသူတို့သည် အလ္လာဟ့် ဗန္ဒာဟ်များကို အရှင်ချစ်နှစ်သက်သော အလုပ်များကိုလုပ်ကြရန် အမိန့် ပေးကြသည်။ အလ္လာဟ်အရှင် (မနှစ်သက်)သောအလုပ်များမှ တားဆီး ကြသည်။ ထိုလူတို့သည် ၎င်းတို့၏ စကားကိုနားထောင်၍ အလ္လာဟ်အရှင် ချစ်နှစ်သက်သော အလုပ်များကို လုပ်လာကြပါက ဤသူတို့သည် အလ္လာဟ် အရှင်မြတ်၏ အချစ်တော်များ ဖြစ်သွားကြမည်။

(ဗစ်ခရေးမိုသီး အတွဲ ၁၊ စာ ၁၀။)

ဆွဟာဗဟ်(ﷺ)သခင်များက လျှောက်ထားကြသည်မှာ “ယာရစူ လလ္လာဟ်” ကောင်းရာညွှန်ကြားမကောင်းရာ တားမြစ်ထားသော လုပ်ငန်း သည် လူကောင်းတို့ ပြုကျင့်သော အမလ်၏ ခေါင်းဆောင်ဖြစ်သည်။ ဤ

နှစ်ရပ်ကို ၎င်းတို့သည် အချိန်စွန့်လွှတ်ကြပါမည်နည်း မေးကြပြန်ရာ ၎င်းတို့၏ အတွင်းဗနီအစ္စရာအီးလ်တို့တွင် ဖြစ်ပေါ်ခဲ့သော ချွတ်ချော်မှုများ ပေါ်ပေါက်လာသောအခါ ဖြစ်သည်။ မေးသူက “ ဗနီအစ္စရာအီးလ်တို့တွင် မည်သို့သော ချွတ်ချော်မှု စတင်ခဲ့ပါသည်” ဟုမေးရာ တမန်တော်မြတ်(ﷺ) အမိန့်ရှိတော်မူသည်မှာ ယင်းသူတော်ကောင်းများသည် ဒွန္နယာကို မက်မောလာကြကာ မသူတော်များရှေ့တွင် ဒီန်ရေးရာ၌ ပျော့ညံ့သွားကြမည်။ ဒီန်ရေးရာ ပညာသည် လူရမ်းကားလူမိုက်များ၏ လက်ဝယ် ရောက်ရှိသွားမည်။ လူငယ်များ အာဏာရလာမည်။ ထိုအခါ အသင်တို့သည် ကြီးကျယ်လှသော ဘေးအန္တရာယ်တွင်းသို့ ကျရောက်သွားမည်။ သင်တို့ကလည်း ဖိသ်နဟ်ရှိရာသို့ သွားကြမည်။ ဖိသ်နဟ်များကလည်း အသင်တို့ထံ အကြိမ်ကြိမ် ချဉ်းကပ်လာမည်။

(ဟယာသွတ်စ် ဆွဟာဗဟ် အတွဲ ၂၊ စာ၄၉)

~~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~~

عن النبي – صلى الله عليه وسلم – أنه قال: "مِنْ أَرْبَى الربا الاستطالةُ في عِرْض مسلمٍ بغير حق... (**مسند أحمد، ت: شاكر، ٢/ ٢٩** ).

(၅) အတိုးတကာ့ အတိုးထဲ၌ အကြီးမားဆုံးသော အတိုးစားခြင်းသည် မဟုတ် မမှန် စွပ်စွဲ၍ မွတ်စ်လင်မ် တစ်ဦး၏ ဂုဏ်သိက္ခာအား ညှိုးနွမ်းပျက်စီးအောင် လုပ်ခြင်းပင်ဖြစ်သည်။

**ရှင်းလင်းချက်**

မဟုတ်မမှန် စွပ်စွဲ၍ မွတ်စ်လင်မ်တစ်ဦးဦး၏ ဂုဏ်သိက္ခာကို ညှိုးနွမ်းအောင်လုပ်ခြင်းနှင့် နာမည်ပျက်အောင်လုပ်ခြင်းတို့သည် ရှရီအသ်တရားတော်အရ အလွန်အင်မတန်မှ ကြီးလေးသော အပြစ်ဂိုနာဟ် ဖြစ်လေသည် တစ်ဦးတစ်ယောက်ချင်းစီ၏ ဂုဏ်သိက္ခာကို ထောက်ရှုရန် အစ္စလာမ် သာသနာတော်က သတ်မှတ်ထားလေသည်။

(သတ်က်မီလွလ် အဒဗ်ကျမ်း)

မုအ်မင်န်တစ်ဦး၏ ဂုဏ်သိက္ခာထူးမြတ်မှုနှင့် ပတ်သက်၍ ဟဒီးဆ်တော် တစ်ပုဒ်၌လာရှိသည်မှာ ဟဇရသ်အစ်ဗ်နေ့အဗ္ဗားစ်(ﷺ)သခင်ကဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ်(ﷺ)သည် ကအ်ဗဟ်ကျောင်းတော်အားကြည့်၍ အံ့သြစွာဖြင့် ဤကဲ့သို့အမိန့်ရှိခဲ့သည်။ လာအိလာဟအစ်လ္လလ္လာဟ် အို-ကအ်ဗဟ် အသင်သည် အဘယ်မျှသန့်ရှင်း လှပါဘိသနည်း။ အသင်၏ မွှေးကြိုင်သော သင်းရနံ့သည် အဘယ်မျှ ကောင်းလှပါ ဘိသနည်း။ ထိုအပြင် အသင့်သည် အဘယ်မျှတိုင် ဂုဏ်ပြုလေးစားခံထိုက်ပါသနည်း။ သို့ရာတွင် မုအ်မင်န်တစ်ဦး၏ ဂုဏ်သိက္ခာနှင့် လေးစားခံထိုက်ခြင်းမှာမူ အသင့်ထက် သာပိုပေသည်။ အလ္လာဟ်ရှင်မြတ်သည် အသင့်အား လေးစားခံထိုက်သူအဖြစ်

ပြုထားတော်မူသည်။ ဤကဲ့သို့ပင် မုအ်မင်န်တစ်ဦး၏ ဥစ္စာပစ္စည်း၊ သွေးနှင့် ဂုဏ်သိက္ခာတို့ကိုလည်း လေးစားခံထိုက်သောအဖြစ်နှင့် ပြုထားတော်မူသည်။ ဤကဲ့သို့ လေးစားခံထိုက်မှုကြောင့် ကျွန်ုပ်တို့သည် မုအ်မင်န်နှင့် ပတ်သက်၍ အနည်းငယ်မျှ မကောင်းထင်မြင်မိခြင်းကိုပင် ဟရာမ်အဖြစ် သတ်မှတ်ထားပါသည်။ (မွန်သခဗ် အဟာဒီဆ်ကျမ်း၊ စာ ၄၂၉။)

မုအ်မင်န်တစ်ဦးအား လေးစားထောက်ထားရန် အဘယ်မျှအရေးကြီးကြောင်း ဟယာသွက်စ် ဆွဟာဗဟ်ကျမ်း'' ၌အကြောင်းအရာတစ်ခု လာရှိလေသည်။ အဗူကသာဒဟ်၊ မုဟလ်လင်မ်နှင့် အဗ္ဗဒွလ္လာဟ် အိဗ်နုအဗီနု အဗီဟာဒ်ရဒ်တို့ပါဝင်သော ဂျမာအသ်ကို အေဒွမ်မြို့သို့ စေလွှတ်တော်မူလိုက်သည်။ ထိုဒေသသို့ ရောက်သွားစဉ် အာမိရ်အရှ်ဂျအီကို ကုလားအုတ်စီးနင်းလျက် တွေ့ရသည်။ ခရီးဆောင်အိတ်နှင့် နို့အနည်းငယ်လည်း ၎င်းထံရှိနေသည်။ ၎င်းက အစ္စလာမ့်ထုံးစံအတိုင်း စလာမ်ပေးပါလျက် စွဟာဗဟ်များက နှုတ်ဆိတ်နေလိုက်သည်။ ၎င်းနှင့် မုဟလ်လင်မ်(ﷺ)တို့သည် ကနဦးမှပင် ရန်စရှိရာ မုဟလ်လင်မ်(ﷺ)က ၎င်းအား သတ်ပစ်လိုက်သည်။ တမန်တော်မြတ်ထံ မိမိတို့ကာရ်ဂိုဇာရီကို တင်ပြစဉ်မှာပင် အောက်ပါအာယသ်တော် ကျရောက်လာခဲ့သည်။ အိုမုအ်မင်န်အပေါင်းတို့ အသင်တို့သည် အလ္လာဟ်ရှင်မြတ်လမ်းတော်၌ ခရီးထွက်ကြသော အခါရန်သူနှင့် မိတ်ဆွေကို ခွဲခြားသိထားရန် စုံစမ်းကြလေကုန်။ အသင်တို့သည် မိမိတို့အား စလာမ်ပို့သကာ မွတ်စ်လင်မ် ဖြစ်ကြောင်း ထင်ရှားစေသောသူကို အသင်တို့သည် မုအ်မင်န် မဟုတ်ဟု မပြောကြကုန်လင့်။ အသင်တို့သည် လောကီပစ္စည်းကို ရှာဖွေကြကုန်၏။ သို့ဖြစ်လျှင် အရှင်မြတ်ထံတော်၌

လက်ရပစ္စည်းများသည် အလွန်ပေါများစွာ ရှိကုန်၏။ အသင်တို့သည်လည်း ယခင်မူလက ထိုကဲ့သို့ပင် ဖြစ်ခဲ့ကြ၏။ ထို့နောက် အရှင်မြတ်သည် အသင်တို့အပေါ်၌ ကျေးဇူးပြုတော်မူခဲ့လေသည်။ သို့ဖြစ်ရာ အသင်တို့ စိစစ်ရှာဖွေကြလေကုန်။ အရှင်မြတ်သည် အသင်တို့ ပြုမူသော အမှုကိစ္စကို အကြွင်းမဲ့ကြားသိတော်မူသောအရှင်မြတ် ဖြစ်တော် မူသည်။

(စူရဟ် နိစာအ် အာယသ် ၉၄။)

အပ်က်ရအ်(ﷺ)က "ယာရစူလလ္လာဟ် ယနေ့တော့ မုဟာလ်လင်မ်အား ခွင့်လွှတ်တော်မူလိုက်ပါ"ဟု လျှောက်ထားပါလျက် အို့ယိုင်နဟ်(ﷺ)က "အရေးယူပေးပါ" ကျွန်တော်အသတ်ခံရရင် ကျွန်တော့်ဇနီးစိတ်ထိခိုက်သလို သူရဲ့အမျိုးသမီးလည်း စိတ်ထိခိုက်စေလိုပါတယ်ဟု စောဒကတက်သဖြင့် မုဟာလ္လင်မ်သည် စောင်နှစ်ပိုင်းရစ်ပတ်ကာ ကိုယ်တော်ထံမှ အိစ်သိဂ်ဖာရ် ဒိုအာရရန် ထိုင်ချလိုက်သည်။ သို့သော် တမန်တော်မြတ်က " အသင့်အား အရှင်မြတ်မဂ်ဖိရသ် မပြုပါစေနှင့်" ဟု ဆန္ဒပြုတော်မူသဖြင့် မုဟာလ္လင်မ်သည် ငိုချလိုက်ရင်း မျက်ရည်စက်လက်ဖြင့် အိမ်ပြန်ခဲ့ပြီးနောက် (၇)ရက်မြောက်နေ့တွင် အလ္လာဟ်ရှင်မြတ်၏အမိန်တော်ခံယူသွားတော့သည်။ ဆွဟာဗဟ်များက ၎င်းကို ဒဖန်လုပ်ပေး သော်လည်း မြေကြီးကလက်မခံဘဲ ပြန်ထုတ်နေသဖြင့် တမန်တော်မြတ်က ဤသည်ထက်ကြီးသော ပြစ်မှုကျူးလွန်သူကိုပင် မြေကြီးကလက်ခံသည်။ သို့သော် မွတ်စ်လင်မ်တစ်ဦးကို လေးစားထောက်ထားရန် အဘယ်မျှအရေးကြီးကြောင်း သံဝေဂတရား အသင်တို့ ရရှိရေးအတွက် အရှင်မြတ်က ထိုသို့ပြသခြင်း ဖြစ်တော်မူသည်ဟု ပညာပေးတော်မူလိုက်ပြီး

၎င်း၏ အလောင်းကို တောင်နှစ်လုံးကြားတွင် ဝှက်၍ ကျောက်တုံးများနှင့် အုပ်ထားလိုက်ကြသည်။

(ဟယာသွတ်ဆွဟာဗဟ်ကျမ်း၊ တွဲ၂စာ၊ ၃၁၈။)

~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~

إِنَّ النَّبِيَّ –صلى الله عليه وسلم– قَالَ «إِيَّاكُمْ وَالْحَسَدَ فَإِنَّ الْحَسَدَ يَأْكُلُ الْحَسَنَاتِ كَمَا تَأْكُلُ النَّارُ الْحَطَبَ». **سنن أبي داود (٤/ ٤٢٧).**

(၆) သင်တို့မနာလို ဝန်တိုမှုဖြစ်ခြင်းကနေ ရှောင်ရှားကြလေကုန်။ အဘယ်ကြောင့်ဆိုသော် မနာလိုဝန်တိုမှုသည် မီးကထင်းချောင်းကို လောင်ကျွမ်း သွားသကဲ့သို့ ကောင်းမှုဟူသ၍ ဝါးမျိုလိုက်လေသည်။

**ရှင်းလင်းချက်**

ဟဒီးဆ်တော်၏အလိုသဘောမှာ မီးကထင်းချောင်းကိုလောင်ကျွမ်း၍ ထင်း၏တည်ရှိမှုကို ဖျောက်ဖျက်ပစ်လိုက်သကဲ့သို့ မနာလိုဝန်တိုမှုသည်လည်း အလားတူပင် လူသားကို မိမိ၏ပါးချုပ်ထဲထည့်၍ လူသား၏ ကောင်းမှုအားလုံးကို ဖျောက်ဖျက်ပစ်လိုက်လေသည်။ (သက်မီလွလ် အဒဗ်ကျမ်း)

الحسد كصداء الحديد لا يزال به حتى يأكله.

မနာလိုဝန်တိုမှုသည် သံချေးကဲ့သို့ဖြစ်လေသည်။ သံချေးသည် သံထည်တစ်ခုလုံးကို အပြည့်အဝမဝါးမျိုရမချင်း ပျောက်ကွယ်သွားသည်ဟူ၍ မရှိပေ။ အမှန်စင်စစ် သံဆိုသည့် သတ္တုသည် အလွန်အင်မတန် မာကျော ခိုင်ခံ့ သောအရာဝတ္ထုဖြစ်သည်။ သံချေးမှာမူကား ပျော့ပျောင်း၍ ပါးလွှာသောအရာဖြစ်သည်။ သို့သော် မိမိ၏မကောင်းသော သက်ရောက်မှုတို့ကြောင့် သံကိုပျောက်ကွယ်သွားအောင်လုပ်၍ အဆုံးသတ်စေလိုက် သည်။ မုချကေန် မနာလိုဝန်တိုမှု၏ အခြေအနေသည်လည်း အလားတူပင် ဖြစ်သည်။ မနာလိုဝန်တိုမှုသည် နှလုံးသားအတွင်း အနက်ရှိုင်းဆုံးနေရာအထိ လှိုက်စား၍ လူသား၏သွေးအတွင်းတိုင်အောင် ဆူပွက်စေသည်။ မနာလိုဝန်တိုမှုသည်

နှလုံးသားအတွင်း၌ အမုန်းတရားများကို တိုးပွားစေသော ရောဂါဆိုး တစ်ခုဖြစ်ပါသည်။ အမုန်းတရားသည် အချို့အချိန်များ၌ အမြဲတမ်း ရန်သူ သဖွယ် မှတ်ယူသတ်မှတ်စေလေသည်။ နဖ်ရသ် (အမုန်းတရား)ကြောင့် မြောက်များစွာသော ဆုံးရှုံးနစ်နာမှုများရှိလေသည်။ အလ္လာဟ်အရှင်မြတ် သည် ကျွန်ုပ်တို့အားလုံးအား ဤပျက်စီးဆုံးရှုံးစေမည့် ဒုက္ခဖြစ်စေမည့် ရောဂါ ဆိုးကြီးမှ ထိန်းသိမ်းစောင့်ရှောက်တော်မူပါစေ။ (အာမီးန်)

(ဟဒိယ္ယသုလ်လစ်သွားလိဗီးန်ကျမ်း၊ စာ ၅၀)

ဟဇရသ်အနက်စ်(ﷺ)က တင်ပြလေသည်။ ကျွန်တော်တို့တမန်တော် မြတ် အနီး ထိုင်နေကြစဉ် “များမကြာမီ ဂျန္နသီတစ်ဦးဝင်လာမည်” ဟု တမန် တော်မြတ်ကမိန့်တော်မူသည်။ မကြာမီမှာပင် မုတ်ဆိတ်မှ ဝုဇူရေ တပေါက်ပေါက် ကျလျက်လက်ဝဲလက်ဖြင့် ဖိနပ်ကိုင်ထားသူ အန်ဆွာရီ တစ်ဦး ဝင်လာသည်။ နောက်နေ့တွင်လည်း ထိုသို့ပင် မိန့်ကြားရာ အဆိုပါ အန်ဆွာရီပင် ဝင်လာသည်။ တတိယနေ့တွင်လည်း ထိုသို့ပင် ဖြစ်ရပြန်သည်။ တမန်တော်မြတ်ထံမှ ထပြန်ကြသောအခါ အဗ်ဒွလ္လာဟ် အိဗ်နေ့အမရ် သခင် သည် ထိုအန်ဆွာရီ၏နောက်မှ လိုက်ပါသွားသည်။ အဗ်ဒွလ္လာဟ် သခင်က “ကျွန်တော် ကျုပ်အဖေနဲ့ ယနေ့ ရန်ဖြစ်ရလို့ သုံးရက်တိတိ စကားမပြောဘဲ နေမည်ဟု ကစမ် ကျိန်ထားပါတယ်။ သင့်လျော်မယ်ဆိုရင် ခင်ဗျားထံပါးမှာ (၃) ရက်လောက် တည်းခွင့်ပြုပါ”ဟု မေတ္တာရပ်ခံသဖြင့် ထိုအန်ဆွာရီက'' မုချတည်းခိုပါ'' ဟုခွင့်ပေးလိုက်သည်။ ၎င်းထံသုံးရက်တိုင် နေထိုင်ခဲ့စဉ် သူသည် ည၌ အေဗာဒသ်ကိုလည်းများစွာ မွေ့လျော်သည်ဟူ၍ မတွေ့ခဲ့ရ၊ ညအခါ နိုးသွားလျှင် တစ်ဖက်သို့ လှည့်လျက် သပ်ဘ်ဗီရ် အနည်းငယ်သာ

ရွတ်လိုက်တက်သည်။ ဖဂျရ်ချိန်ကျမှ အိပ်ယာထသည်။ စကားပြောလျှင် ကောင်းသောစကားသာ ပြောသည်။ ထိုသို့ဖြင့် သုံးညကုန်ဆုံးသွားသော်လည်း အမလ်ဟူသမျှတွင် အနည်းငယ်မျှသာတွေ့ရှိရသော်လည်း တမန်တော်မြတ်ကမူ သူနှင့်ပတ်သက်၍ ကြီးကျယ်သော ထူးမြတ်မှုကို တင်ပြထားတော်မူသဖြင့် အလွန်ပင်အံ့ဩမိကာ ၎င်းကိုပင် "အိုအလ္လာဟ် ၏ ဗန္ဒာဟ် ကျုပ်အဖေနှင့် ဘာမှပြဿနာမဖြစ်ခဲ့ပါ။ မသင့်မြတ် မနှစ်မြို့ခြင်းလည်း မရှိပါ။ ၎င်းကို စကားမပြောဆိုဘဲ လွှတ်ထားရန် ကစမ်လည်း ကျိန်မထားပါ။" အကြောင်းမှန်က တမန်တော်မြတ်သည် သုံးရက်တိုင် (သုံးကြိမ်မျှ) အသင်နှင့် စပ်လျဉ်း၍ " ယခုဝင်လာမည့် သူမှာ ဂျန္နသီဖြစ်သည်" ဟု မိန့်တော်မူသဖြင့် ကျုပ်တို့အကဲခတ်ကြည့်ရှုရာ အသင်သည်ပင် သုံးရက်လုံး ဝင်ခဲ့ပါသည်။ အသင့်တွင် ထူးခြားသည့် မည်သည့်အမလ် ရှိနေသည်ကို စူးစမ်းကာ အသင့်ဖဝါးခြေထပ် လိုက်လိုသဖြင့် ယခုကဲ့သို့ လီဆယ်ကြံဖန်ခဲ့ခြင်း ဖြစ်ပါသည်။ သင့်တွင် မည်သည့်ကြီးကျယ်သည့် အမလ်မျှ ကျွန်တော်မမြင်မိပါ။ အသင်ဘဲ သင်ပြပေးပါ။ ထိုအဆင့်မျိုး ကျွန်တော်လည်း ကျင့်မူ ရယူလိုပါသည်။ အန်ဆွာရီဆွဟာဗဟ်က "ကျုပ်တွင် အသင်မြင်သမျှ အမလ်သာ ရှိပါသည်။ ထူးခြားသည့် အမလ်ဟူ၍ မရှိပါ။" ဟုတင်ပြသဖြင့် ကျွန်တော်သည် ထိုသူ့အိမ်မှ ထွက်ခွာခဲ့ရာ သူက ကျွန်တော့်ကို လှမ်းခေါ်လိုက်သဖြင့် "မိတ်ဆွေ ကျုပ်လုပ်ခဲ့သမျှ အမလ်ကတော့ အသင်မြင်တဲ့အတိုင်းပါဘဲ ဒါပေမယ့် ကျုပ်လုပ်နေတဲ့ သီးခြားအမလ်တစ်ခု ကတော့ ကျွန်ုပ်၏စိတ်ထဲ၌ မည်သည့်မွတ်စ်လင်မ်နှင့် ပတ်သတ်၍ အစွန်းအထင်း မထားခဲ့ဖူးဘူး။ သူတို့ကို အရှင်မြတ်က

ချီးမြှင့်ထားတဲ့ နိဒ်မသ်အပေါ်လည်း မနာလိုစိတ်မထားဖူးဘူး ဟု ပြောပြသဖြင့် ကျွန်တော်က "ဩော် ဒါကြောင့် အမြင့်ဆုံးအဆင့်ကို ခင်ဗျားဆွတ်ခူးရရှိတာပေါ့" ဟု ကောက်ချက်ချ လိုက်ရပါသည်။

(ဟယာသွတ်စ်ဆွဟာဗဟ်ကျမ်း၊ အတွဲ ၂၊ စာ ၃၅၂)

ဟဇရသ်အဘူလ်လိုင်းစ်စမရ်ကန်ဒီ သခင်က အမိန့်ရှိတော်မူသည်။ မနာလိုဝန်တိုမှုသည် ပြစ်မှုအပေါင်းထက်သာပို၍ ပျက်စီးဆုံးရှုံးစေသော အရာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် မနာလိုဝန်တိုခံရသူအပေါ်မှာ မနာလိုဝန်တိုမှု၏ အကျိုးမသက်ရောက်ခင် မနာလိုဝန်တိုသူ အဖို့အရာ(၅)ခု၌ နစ်မွန်းသွားလေသည်။

(၁) အဆုံးသတ်မရှိသော ပူဆွေးမှု

(၂) စဝါးဗ် ကုသိုလ်မရသည့်ဒုက္ခ

(၃) အဖက်ဖက်ကနေကဲ့ရဲ့ ရှုတ်ချခံရမှု (ဘယ်သောအခါမှ ချီးမွမ်းမခံရပေ)

(၄) အလ္လာဟ်အရှင်မြတ်၏ မနှစ်မြို့မှု

(၅) မနာလိုဝန်တိုသူအပေါ်၌ ကောင်းမြတ်သော အရာများ လုပ်နိုင်ခြင်း၏ တံခါးပိတ်သွားခြင်းတို့ ဖြစ်သည်။

ကိုယ်တော်မြတ်က အမိန့်ရှိတော်မူလေသည်။ တစ်ချို့လူများသည် အလ္လာဟ်ရှင်မြတ်၏ နိဒ်မသ် (ဆုလာဘ်တော်များရဲ့)ရန်သူ ဖြစ်လေသည်။ ပုဂ္ဂိုလ်တစ်ဦးက "ထိုသူသည် မည်သို့သော သူဖြစ်ပါသနည်း" ဟုမေးမြန်းလျှောက်ထားလေရာ အမိန့်ရှိတော်မူသည်မှာ စီးပွားရေး ချောင်လည်သူများအား မနာလိုဝန်တိုသူဖြစ်သည် ဟု အမိန့်ရှိတော်မူလေသည်။

(သန်ဗီဟွလ် ဂါဖိလီးန်အူရဒူဘာသာပြန်ကျမ်း၊ စာ ၁၃၉)

قَالَ رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: «كَبُرَتْ خِيَانَةً تُحَدِّثُ أَخَاكَ حَدِيثًا هُوَ لَكَ مُصَدِّقٌ، وَأَنْتَ بِهِ كَاذِبٌ». **مسند أحمد مخرجا (٢٩/ ١٨٣)**.

(၇) အလွန်ကြီးမားသော ခေယာနသ်(အလွဲသုံးစား) လုပ်ခြင်းဆိုသည်မှာ အသင်သည် မိမိ၏ညီနောင် တစ်ဦးအား စကားတစ်ခုကို ပြောဆိုသည့်အခါ ၎င်းအနေဖြင့် ထိုစကားကို ထောက်ခံမှုပြုသော်လည်း အမှန်စင်စစ် အသင့်အနေဖြင့် ထိုစကားကို မုသားပြောနေခြင်းပင်ဖြစ်သည်။

**ရှင်းလင်းချက်**

အလိုသဘောမှာ တစ်ဦးတစ်ယောက်အားကြားရုံဖြင့် အမှန်ဟု ထင်စေမည့် စကားကိုပြောဆိုလိုက်ခြင်း အမှန်မှာ မုသားပြောဆိုခြင်း ဖြစ်ပါက ဤသည်အလွန်ကြီးမားသော အလွဲသုံးစားလုပ်ခြင်းပင် ဖြစ်သည်။ ဤကဲ့သို့ ပြောဆိုမှုမျိုးမှ ရှောင်ကြဉ်ရန် အရေးကြီးပါသည်။

(သက်မီလွလ်အဒဗ်ကျမ်း)

ကိုယ်တော်မြတ် (ﷺ) က အမိန့်ရှိတော်မူသည်မှာ မှန်ကန်စွာ ပြောဆိုခြင်းကို မိမိအပေါ်၌ အရေးကြီးသောအရာဟု သတ်မှတ်ပါလေ။ အဘယ်ကြောင့်ဆိုသော် မှန်ကန်မှုသည် ကောင်းမှုဘက်သို့ ၎င်းနောက် ကောင်းမှုသည် ဂျန္နသ်(သုခဘုံ)ဘက်သို့ ပို့ဆောင်နေလေသည်။ လူသားသည် အမှန်ကို ပြောမည်။ ၎င်းနောက် အမှန်တရားနဲ့ ပတ်သက်ပြီး အမြဲတမ်း ကြိုးစားနေမည်ဆိုပါက အလ္လာဟ်ရှင်မြတ်၏ထံတော်ပါး၌ မှန်ကန်သော သစ္စာဝါဒီများ၏ စာရင်း၌ ရေးမှတ်တော်မူမည်ဖြစ်သည်။ မုသားကနေ ရှောင်ကြဉ်ကြလေကုန်။ အဘယ်ကြောင့်ဆိုသော် မုသားသည် ဆိုးသွမ်းမှုနှင့်

မကောင်းမှုများဘက်သို့ ၎င်းနောက် ဆိုးသွမ်းမှုနှင့် မကောင်းမှုများသည် ဂျဟန္နမ်(ငရဲဘုံ)ဘက်သို့ တွန်းပို့လေသည်။ လူသားသည် အမြဲလိုလို မုသားပြောဆိုပါက အလ္လာဟ်ရှင်မြတ်၏ထံတော်ပါး၌ လိမ်လည်ပြောဆိုကြသော မုသားဝါဒီတို့ စာရင်း၌ ရေးမှတ်တော်မူမည်ဖြစ်သည်။

ဟဇရသ်လွတ်က်မားန်အား တစ်ဦးသောသူက မေးမြန်းသည်မှာ သခင်သည် ဤမျှလောက်မြင့်မားသော နေရာနှင့် အဆင့်အတန်းကို အဘယ်ကြောင့် ရရှိခဲ့ပါသနည်း? အမိန့်ရှိသည်မှာ မှန်ကန်မှု သစ္စာသမာဓိရှိမှု အကျိုး အချီးအနှီးစကားများကနေ ရှောင်ကြဉ်မှုကြောင့်ဖြစ်သည်ဟု အမိန့်ရှိတော် မူလေသည်။

(သန်ဗီဟွလ် ဂါဖိလီးန်အူရဒူဘာသာပြန်ကျမ်း၊ စာ ၁၂၆)

ကိုယ်တော်မြတ် (ﷺ) က အမိန့်ရှိတော်မူသည်မှာ အသင်တို့ ငါကိုယ်တော်အား(၆)ခုသောအရာ နှင့်ပတ်သက်၍ အာမခံချက်ပေးကြလေကုန်။ ငါကိုယ်တော်သည် အသင်တို့အတွက် ဂျန္နသ်ရရှိဖို့ အာမခံချက်ပေးမည်ဖြစ်သည်။

(၁) အစဉ်အမြဲ အမှန်ကို ပြောဆိုကြလေကုန်။

(၂) ဖြစ်နိုင်သမျှ ကတိကို ပြည့်ဝအောင်ဆောင်ရွက်ကြလေကုန်။

(၃) အမာနသ်(ယုံကြည်စွာအပ်နှံထားသောအရာများ)ကို ခေယာနသ်(အလွဲသုံးစား)မလုပ်ကြနှင့်။

(၄) အရှက်အင်္ဂါများကို ထိန်းသိမ်းကြလေကုန်။

(၅) မျက်လွှာများကို အောက်သို့ချထားကြလေကုန်။

(၆) လက်များကို ညှင်းပန်းနှိပ်စက်မှုကနေ တားမြစ်ကြလေကုန်။

قَالَ رَسُولُ اللَّهِ صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ: «وَيْلٌ لِلَّذِي يُحَدِّثُ فَيَكْذِبُ، لِيُضْحِكَ بِهِ النَّاسَ، وَيْلٌ لَهُ، وَيْلٌ لَهُ». **الآداب للبيهقي** (ص: **١٢٥**).

(၈) လူတွေရယ်မောဖို့အတွက် စကားတွေကို လုပ်ကြံဖန်တီးပြီး ပြောဆိုသောသူအတွက် အလွန်အင်မတန်မှ စိုးရိမ်ဖွယ်ဖြစ်သည်။ ထိုသူ့အတွက် ပျက်စီးဆုံးရှုံးမှုရှိလေသည်။ ထိုသူ့အတွက် ပျက်စီးဆုံးရှုံးမှု ရှိလေသည်။

**ရှင်းလင်းချက်**

ဟဒီးဆ်တော်၏အလိုသဘောမှာ လူတွေရယ်မောရန် ရည်ရွယ်ချက်သက်သက်ဖြင့် စကားများကို လိမ်ညာပြောဆိုခြင်းသည်လည်း ဂိုနာဟ် (အပြစ်) ဖြစ်လေသည်။ သို့သာမက ပြင်းထန်သောသတိပေးမှု ရှိလေသည်။

အစ်ဗရာဟီးမ်နခ်အီ (ﷺ) အမိန့်ရှိတော်မူသည်။ ပုဂ္ဂိုလ်တစ်ဦးသည် လူများရယ်မောရန်အတွက် စကားတစ်ခွန်းခွန်းကို ပြောဆိုလိုက်ပါက ပြောဆိုသူ နားထောင်သူတို့၏နှလုံးသားသည် မာကျောသွားလေသည်။ ၎င်းနောက် ပုဂ္ဂိုလ်တစ်ဦးသည် အလ္လာဟ်ရှင်မြတ် ကျေနပ်နှစ်သက်ရန်အတွက် စကားတခွန်းခွန်းကို ပြောဆိုလိုက်ပါက အလ္လာဟ်ရှင်မြတ်ဘက်တော်မှ ရဟ်မသ်-ဂရုဏာတော်များ ကျရောက်လာပြီး ထိုင်ဝိုင်း၌ရှိနေကြသူအားလုံးလည်း အကျိုးခံစားရလေသည်။

အဟ်နဖ်ဗင်န်ကိုင်းစ်(ﷺ)သခင်က ဆင့်ပြန်ခဲ့သည်။ ဟဇရသ်အိုမရ် (ﷺ)သခင် အမိန့်ရှိသည်မှာ-

- အကြင်သူများစွာ ရယ်မောပါက ထိုသူ၏အရှိန်အဝါကျဆင်းသွားလေသည်။

- အကြင်သူ အစအနောက်သန်ပါက ထိုသူသည် သေးသိမ်သူ ဖြစ်သွားလေသည်။
- အကြင်သူသည် အလုပ်တစ်ခုကို မြောက်မြားစွာလုပ်ဆောင်ပါက ထိုသူသည် ထိုအလုပ်နှင့်အတူ ကျော်ကြားသူဖြစ်သွားလေသည်။
- အကြင်သူသည် စကားများများပြောပါက ထိုသူသည် သေးသိမ်သူနှင့် နာမည်ပျက်သူ ဖြစ်သွားသည်။
- အကြင်သူသည် နာမည်ပျက်သူဖြစ်သွားပါက အရှက်တရားမဲ့သွားလေသည်။
- အကြင်သူသည် အရှက်တရားမဲ့သွားပါက ထိုသူ၏ "သက္ကဝါ" တရားနည်းပါးသွားလေသည်။
- အကြင်သူသည် "သက္ကဝါ" တရား နည်းပါးသွားပါက ထိုသူ၏ နှလုံးသားသည်လည်း သေဆုံးသွားလေသည်။
- အကြင်သူ၏ နှလုံးသားသေဆုံးသွားပါက ထိုသူ့အတွက် ဂျဟန္နမ် ၏ မီး သည်သာ အသင့်တော်ဆုံးဖြစ်လေသည်။

(သန်ဗီဟုလ်ဂါဖေ့လီးန်အူရဒူဘာသာပြန်ကျမ်း၊ စာ ၁၆၆၊ ၁၆၇ )

မုသားစကားပြောဆိုခြင်းနှင့်ပတ်သက်လို့ ဟဒီးဆ်တော်တစ်ရပ်၌ လာရှိသည်မှာ- ဟဇရတ်အဗ်ဒွလ္လာဟ်ဗင်န်အို့မရ် (ﷺ) သခင်က ဆင့်ပြန်ခဲ့သည်။ ရစူလွလ္လာဟ် (ﷺ) က အမိန့်ရှိတော်မူသည်မှာ အကြင်ဗန္ဒာဟ် သည် မုသားစကားဆိုရာ ထိုမုသားစကား၏နံစော်မှုကြောင့် ဖရစ်ရှ်သဟ်များသည် ထိုသူနှင့်တစ်မိုင်မျှဝေးသောနေရာအထိ ထွက်သွားကြသည်။

(မွန်သခဗ်အဟာဒီးဆ်ကျမ်း၊ စာ ၈၃၆)

"اَللهُمَّ احْفَظْنَا مِنْ الْكِذْبِ وَمِنْ كُلِّ الْمَعَاصِيْ"

“အို! အလ္လာဟ်ရှင်မြတ် မုသားနှင့် ဂိုနာဟ်ပြစ်မှုအပေါင်းကနေ ကျွန်တော်မျိုးတို့အား ထိန်းသိမ်းစောင့်ရှောက်တော်မူပါ။ (အာမီးန်)

~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~

عَنِ النَّبِيِّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ قَالَ: «إِذَا وَعَدَ الرَّجُلُ أَخَاهُ وَمِنْ نِيَّتِهِ أَنْ يَفِيَ لَهُ وَلَمْ يَجِئْ لِلْمِيعَادِ فَلَا إِثْمَ عَلَيْهِ». **المعجم الكبير للطبراني (٥/ ١٩٩)**.

(၉) ဟဒီးဆ်တော်၌ အမိန့်ရှိသည်မှာ ပုဂ္ဂိုလ်တစ်ဦးသည် ပြည့်ဝစွာ ဆောင်ရွက်မည်ဆိုသည့် ရည်ရွယ်ချက်ဖြင့် မိမိညီနောင်တစ်ဦးအား ကတိပေးပြီးနောက် ထိုကတိအား ပြည့်ဝအောင် ဆောင်ရွက်နိုင်ခြင်းမရှိလျှင် (သို့မဟုတ်) သတ်မှတ်ချိန်းဆိုထားသော အချိန်၌ မလာရောက်နိုင်ပါက ထိုသူ့အပေါ်၌ မည်သည့်အပြစ် ဂိုနာဟ်မှ မထိုက်ပေ။

**ရှင်းလင်းချက်**

အလိုသဘောမှာ တကယ်တမ်းကတိကို ဖောက်ဖျက်ခြင်းသည် အပြစ် ဂိုနာဟ် ထိုက်လေသည်။ သို့သော် အကယ်၍ ပြည့်ဝအောင် ဆောင်ရွက်မည်ဆိုသည့် ရည်ရွယ်ချက်ဖြင့် ကတိပေးပြီးနောက် တခြားအရေးကြီးကိစ္စ တစ်စုံတစ်ရာကြောင့် ကတိကို ပြည့်ဝအောင် မဆောင်ရွက်နိုင်ဖြစ်ပြီး သတ်မှတ်ထားသောအချိန်၌ မလာရောက်နိုင်ပါက မည်သည့် အပြစ်မှ မထိုက်ပေ။

( သက်မီလွှလ်အဒဗ်ကျမ်း )

الكريم إذا وعد وفى.

“မွန်မြတ်သောသူသည် ကတိပေးပြီးသွားသောအခါ ပြည့်ဝအောင် ဆောင်ရွက်လေသည် ”

ကတိတည်ခြင်းသည် မွန်မြတ်သောသူတို့၏အကျင့်ဓလေ့ဖြစ်သည့် အတိုင်း ၎င်းတို့သည် တစ်ဦးတစ်ယောက်နှင့်ပြုလုပ်ထားသောကတိကို ပြည့်ဝအောင်ဆောင်ရွက်ကြလေသည်။ တခြားသူနှင့်ပြုလုပ်ထားသော ကတိ

ကို ပြည့်ဝအောင်ဆောင်ရွက်ခြင်း၌ လူသားအတွက် ဂုဏ်သိက္ခာရှိလေသည်။ ထို့ကြောင့် မည်သူ့ကိုမျှ မလှည့်စားပါနှင့်။ မွန်မြတ်သောသူသည် မိမိ အတွက် ဂုဏ်သိက္ခာကို အရေးကြီးသည်ဟု မှတ်ယူထားသလို တခြားသူများ အတွက်လည်း ဂုဏ်သိက္ခာကို အရေးကြီးသည်ဟု မှတ်ယူထားပေသည်။ မွန်မြတ်သော သူသည်အကယ်၍များ မိမိသည်ကတိကိုဖောက်ဖျက်ပါက မုချ မိမိ၏သိက္ခာကျမည်ဖြစ်ပြီး လူအများကမိမိပေါ်ယုံကြည်မှုများသည်လည်း အဆုံးသတ်သွားမည်ဖြစ်ကြောင်း တထစ်ချ ယုံကြည်လက်ခံ ထားပေသည်။

( ဟာဒိယသုလ်လစ်သွာလိဗိန်းကျမ်း၊ စာ ၃၂ )



قال رسولُ الله -صلى الله عليه وسلم-: "إذا تثاءب أحدُكم، فليُمسِك على فيه، فإن الشَّيطانَ يدخلُ". **سنن أبي داود ت الأرنؤوط (٧/ ٣٧٣)**.

(၁၀) အသင်တို့အနက် တစ်ဦးတစ်ယောက်သည် ဟားသန်းပါက မိမိ၏ ပါးစပ်ကို ပိတ်လိုက်ပါ။ အဘယ်ကြောင့်ဆိုသော် ရှိုင်တွာန်သည် ပါးစပ်အတွင်းသို့ ဝင်ရောက်သွားနိုင်ခြင်းကြောင့် ဖြစ်သည်။

**ရှင်းလင်းချက်**

ဟဒီးဆ်တော်၌ ဟားသန်းနေစဉ် မိမိ၏ပါးစပ်ကို ပိတ်ထားရန် အကြောင်းခံကို ရှင်းပြထားလေသည်။ အဘယ့်ကြောင့်ဆိုသော် ပါးစပ်ဖွင့်၍ ဟားသန်းပါက ရှိုင်တွာန်ဝင်သွားနိုင်သောကြောင့်ဖြစ်သည်။

(သက်မီလွှလ်အဒဗ်ကျမ်း)

ဟားသန်းခြင်း၊ သန်းဝေခြင်းနှင့်စပ်လျဉ်း၍ မစ်ရှ်ကားသ်ကျမ်း၏ ဟဒီးဆ်တော်တစ်ပုဒ်တွင် လာရှိသည်မှာ- ဟဇရသ်အဗူဟိူ့ရိုင်ရဟ် (ﷺ) သခင်ကဆင့် ပြန်ခဲ့သည်။ ကိုယ်တော်မြတ်(ﷺ)အမိန့်ရှိတော်မူသည်မှာ အလ္လာဟ်ရှင်မြတ် သည် နှာချေခြင်းကို နှစ်သက်သော်လည်း ဟားသန်းခြင်းကို နှစ်သက်တော်မူခြင်း မရှိချေ။ သို့ရှိရာ အသင်တို့အနက်မှ တစ်ဦးတစ်ယောက်သည် နှာချေပါက "အလ်ဟမ် ဒို့လိလ္လာဟ်" ဆိုရမည်ဖြစ်ပြီး ၎င်း၏ "အလ်ဟမ်ဒုလိလ္လာဟ်" ဆိုသံကို ကြားသူတိုင်းက "ယရ်ဟမို့ကလ္လာဟ်"ဟု အဖြေပေးရမည်ဖြစ်သည်။ သို့ဖြစ်၍ အသင်တို့အနက်မှ တစ်ဦးတစ်ယောက်သည် ဟားသန်းပါက တတ်နိုင်သမျှ ၎င်းကို တားဆီးသင့်သည်။

အဘယ့်ကြောင့်ဆိုသော် အသင်တို့အနက် တစ်ဦးတစ်ယောက် ဟားသန်း သောအခါ ရှိုင်တွာန်သည် ရယ်မောသောကြောင့်ဖြစ်သည်။

(မဇ္ဈာဟော့ရေ့ဟတ်ကျမ်း၊ အတွဲ ၅၊ စာ ၄၄၇)

နှာချေခြင်းကို အလ္လာဟ်ရှင်မြတ်သည် နှစ်သက်တော်မူသည်။ အဘယ့်ကြောင့်ဆိုသော် နှာချေခြင်းကြောင့် ပါးစပ်တွင် သန့်ရှင်းမှုဖြစ်ပေါ် လာသည်။ အထူးသဖြင့် ဦးနှောက်တွင် ပေါ့ပါးမှုနှလုံးသားလန်းဆန်းမှုနှင့် ခန္ဓာကိုယ်၏ အမိန့်နာခံနိုင်ဖို့အတွက် အကူအညီဖြစ်သွားသည်။ ဟာသန်း ရခြင်း၏ အကြောင်းခံသည် စိတ်လေးလံထိုင်းမှိုင်းမှု၊ ဗိုက်ပြည့်မှု တို့ကြောင့် ဖြစ်ပြီး သန်းဝေမှုကြောင့် အာရုံများလေးလံလာပြီး ပျင်းရိမှု၊ မေ့လျော့မှု၊ အာရုံမကြည်လင်မှုများ ဖြစ်ပေါ်လာသည်။ ၎င်းနောက်အမိန့်နာခံမှုများ၌ လိုလားမှု၊ စိတ်ပါဝင်စားမှုတို့တွင် အတားအဆီးတစ်ခု ဖြစ်သည်။ ထို့ကြောင့် ရှိုင်တွာန် ပျော်ရွှင်ရလေသည်။ ထို့အတွက်ကြောင့် ဟားသန်ခြင်းသည် ရှိုင်တွာန်ဘက်မှ ဖြစ်လေသည်။ (သို့ရှိရာ) အလ္လာဟ်ရှင်မြတ်သည် နှာချေခြင်း ကို နှစ်သက်တော်မူ၍ သန်းဝေခြင်းကိုမူ မနှစ်သက်ပေ။

အဘယ်ကြောင့်ဆိုသော် နှာချေခြင်းသည် အမိန့်နာခံမှုတွင် စိတ်ပါဝင်စားမှု လိုလားတိုးတက်မှုဖြစ်စေ၍ ဟားသန်ခြင်းသည် ပျင်းရိမှုကိုဖြစ်ပေါ် စေသည်။

(မဇ္ဈာဟော့ရေ ဟတ်ကျမ်း၊ အတွဲ ၅၊ စာ၄၁၈)

~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~

قال رسولُ الله –صلى الله عليه وسلم–:"خَمْسٌ تَجِبُ للمُسلِمِ على أخيه: ردُّ السَّلامِ، وتشميتُ العَاطِس، وإجابةُ الدعوة، وعيادةُ المريضِ، واتباعُ الجَنَازَة".

**سنن أبي داود ت الأرنؤوط (٧/ ٣٧٥).**

(၁၁) မွတ်စ်လင်မ်တစ်ဦးသည် မိမိညီနောင်မွတ်စ်လင်မ်တစ်ဦးအပေါ်၌ အရေးကြီးသော ဝတ္တရား(၅)ခု ရှိပေသည်။

၁။ စလာမ်၏ အဖြေပေးခြင်း (သို့မဟုတ်) စလာမ်တုံ့ပြန်ဖြေကြားခြင်း။

၂။ နှာချေသူ၏ '' အလ်ဟမ်ဒုလိလ္လာဟ် '' ဆိုသံကို ကြားသောအခါ၌ အဖြေပေးခြင်း။

၃။ မွတ်စ်လင်မ်တစ်ဦး၏ ဒအ်ဝသ် (ဖိတ်ခေါ်ကျွေးမွေးခြင်း)အားလက်ခံခြင်း။

၄။ လူမမာ သွားရောက်မေးမြန်းခြင်း။

၅။ မွတ်စ်လင်မ်တစ်ဦး၏ ဂျနာဇဟ်အား လိုက်ပါပို့ဆောင်ခြင်းတို့ဖြစ်သည်။

## ရှင်းလင်းချက်

ဟဒီးဆ်တော်၌ မွတ်စ်လင်မ်တစ်ဦးသည် တခြားမွတ်စ်လင်မ်တစ်ဦးအပေါ်မှာ ဝတ္တရား(၅)ပါးရှိကြောင်း တင်ပြထားပါသည်။ (၁) စလာမ်၏ အဖြေပေးခြင်း စလာမ်ဆိုခြင်းသည် စွန္နသ်ဖြစ်သည်။ သို့သော် အဖြေပေးခြင်းသည် ဝါဂျစ်ဗ် (အရေးကြီးသောတာဝန်) ဖြစ်လေသည်။ ဟဒီးဆ်တော်များ၌

စလာမ်များများပေးကြဖို့အတွက် လေးနက်စွာ တိုက်တွန်းနှိုးဆော်ထား ပါသည်။

၁။ စလာမ် အဖြေပေးခြင်း။

ဟာဇရသ်အဗ်ဒွလ္လာဟ်ဗင်န်အမရ် (ﷺ)သခင်က ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် (ﷺ) အား ပုဂ္ဂိုလ်တစ်ဦးက မွတ်စ်လင်မ်တို့၏ မည်သည့်အကျင့်ဓလေ့သည် အကောင်းဆုံးနှင့် အမွန်မြတ်ဆုံးဖြစ်သနည်းဟု လျှောက်ထားလေရာ ကိုယ်တော်မြတ်(ﷺ)က အမိန့်ရှိတော်မူသည်မှာ အစားအစာများအား လှူဒါန်းကျွေးမွေးခြင်း၊ သိသူဖြစ်စေ၊ မသိသူဖြစ်စေ "စလာမ်" ဆိုခြင်းတို့ ဖြစ်ပါသည်။

(မဇ္ဇာဟေ့ရေ့ဟတ်က်၊ အတွဲ ၅၊ စာ ၃၅၈ )

၂။ နှာချေသူ၏ "အလ်ဟမ်ဒိုလစ်လ္လာဟ်" ဆိုသံကို ကြား၍ "ယရ်ဟမို့ကလ္လာဟ်ဟု" ဆို၍ အဖြေပေးခြင်း။

အိဗ်မို့အို့မရ် (ﷺ)သခင်က တင်ပြသည်။ ကျွန်ုပ်တို့ တမန်တော်မြတ်အနီး နေထိုင်ကြစဉ် တမန်တော်မြတ်က နှာချေတော်မူလိုက်သဖြင့် ဆွဟာဗဟ်တို့က "ယရ်ဟမို့ကလ္လာဟ်"ဟု ဖြေကြရာ တမန်တော်မြတ်(ﷺ)က "ယဟ်ဒီကို့မွလ္လာဟို့ ဝယွစ္စ်လိဟ့်ဗာလကွန်မ်" ဟူ၍ တုံ့ပြန် ဒိုအာပြုတော်မူပါသည်။ တစ်ဦးကနှာချေလိုက်ပြီး "ကျွန်တော် ဘာဆိုရမလဲ " ဟုမေးရာ တမန်တော်မြတ် (ﷺ)က " အဟ်ဟမ်ဒိုလိလ္လာဟ်"ဆိုလိုက်ပါ။ ဆွဟာဗဟ်များက "ကျွန်တော်တို့က အဘယ်သို့ ဖြေရပါမည်နည်း" တမန်တော်မြတ် ﷺ က "ယရ်ဟမို့ကလ္လာဟ်"ဆိုပါ။ နှာချေသောပုဂ္ဂိုလ်က "သူတို့အား မည်သို့တုံ့ပြန်

ရပါမည်နည်း” တမန်တော်မြတ် (ﷺ)က အထက်ကရေးသားခဲ့သော ဒိုအာကို သင်ပေးတော်မူလိုက်သည်။ “ ” ဟူ၍လည်း ဆိုနိုင်သည်။

“اَلْحَمْدُ لِلّٰهِ حَمْدًا كَثِيرًا طَيِّبًا مُبَارَكًا فِيْهِ” ဟူ၍လည်း ရွတ်ဆိုနိုင်သည်။ နှစ်ဦးတစ်ပြိုင်တည်း နှာချေသော်လည်း တစ်ဦးကိုသာ တမန်တော်မြတ်က တုံ့ပြန်တော်မူသဖြင့် အဖြေမရလိုက်သူက အကြောင်းကိုမေးလျှောက်ရာ တမန်တော်မြတ်က “၎င်းက “اَلْحَمْدُ لِلّٰهِ” ဆိုခဲ့ပြီး အသင်က မဆိုသော ကြောင့်ဖြစ်သည်။ သူက အလ္လာဟ်ကို သတိရသည်။ ငါလည်း နာမတော်ကို သတိရသည်။ သင်က အလ္လာဟ်ကို မေ့သည်။ ငါကလည်း အသင့်ကို မေ့ထားလိုက်သည် ” ဟု ပညာပေးတော်မူ လိုက်သည်။

(ဟယာသွတ်ဆွဟာဗဟ်၊ တွဲ ၂၊ စာ ၄၀၇ )

၃။ မွတ်စ်လင်မ်တစ်ဦး၏ ဖိတ်ခေါ်ကျွေးမွေးခြင်းကို လက်ခံခြင်းသည် လည်း စွန္နသ်ဖြစ်သည်။ သို့ရာတွင် ၎င်း၏ဝင်ငွေအများစုသည် အတိုးယူခြင်း၊ လာဘ်ယူခြင်း၊ လောင်းကစားခြင်းနှင့် အစ္စလာမ့်တရားတော်မြတ်မှ တားမြစ်ထားသည့် လုပ်ငန်းများဖြင့် လုပ်ကိုင်ရှာဖွေထားသည်ဟုဆိုလျှင် ထိုသူ၏ ဒအ်ဝသ် ကို လက်မခံရပေ။

ဟဇရသ်မုအာဝေ့ယဟ် (ﷺ)သခင်၏ ခေတ်သမယတွင် သမုဒ္ဒရာခရီး နှင်ကာ ဂဇ်ဝါသို့ ထွက်ခွာရာ ကျွန်ုပ်တို့၏ လှေသင်္ဘောသည် အဗူအိုင်ယူဗ် ﷺ သခင်၏ လှေသင်္ဘောနှင့် ဆုံတွေ့ရသည်။ နေ့လယ်စာ စားသုံးစဉ် အဗူအိုင်ယူဗ်ﷺသခင်အား စားသုံးရန်ဖိတ်ခေါ်ရာ သခင်သည် ကျွန်တော်တို့ထံ ရောက်လာပြီး သခင်က “အသင်တို့ဖိတ်ခေါ်သည်ကို လက်ခံသောအားဖြင့်

ရောက်လာခြင်းဖြစ်သည်။ သို့သော် ကျွန်တော် ယနေ့ ရိုဇာဟ် ထားနေပါသည်။ မွတ်စ်လင်မ်တစ်ဦးအပေါ် မိမိညီနောင်၏ဝတ္တရား(၆)ရပ်ရှိသည်။ ထို(၆)ရပ်အနက် တစ်ခုခုကိုစွန့်လွှတ်လျှင် ထိုသူသည် မိမိညီနောင်၏ ဝတ္တရားကို စွန့်လွှတ်ရာရောက်မည်။ ၎င်းနှင့်တွေ့ဆုံလျှင် စလာမ်ပေးရမည်။ ဖိတ်ခေါ်လျှင် လက်ခံ ရမည်။ နှာချေလျှင် အဖြေပေးရမည်။ နာမကျန်းဖြစ်လျှင် စုံစမ်းမေးမြန်းရ မည်။ ကွန်လွန်လျှင် ၎င်း၏ဂျနာဇဟ်တွင် ပါဝင်ရမည်။ ဆုံးမစကားနာယူလို လျှင် ဆုံးမစကား မြွက်ကြားရမည် ဟူသော ဩဝါဒတော်ကို ကြားဖူးထားပါ သည် ” ဟု ဆင့်ပြန်ပြောပြလေသည်။

(ဟယာသွတ်ဆွဟာဗဟ်ကျမ်း၊ တွဲ ၂၊ စာ ၄၀၅)

၄။ လူမမာအား သွားရောက်တွေ့ဆုံ မေးမြန်းခြင်းသည်လည်း ဝတ္တရားတစ်ခုပင်ဖြစ်သည်။ လူမမာအားမေးမြန်းဖို့အတွက် မည်သည့်နေ့ မည်သည့်အချိန်ဟူ၍ သတ်မှတ်မထားပေ။ သင့်တော်မည့် အချိန်တစ်ခု၌ သွား ရောက်တွေ့ဆုံရမည်။တစ်ကြိမ်ထက်မကသွားရောက်တွေ့ဆုံခြင်းသည်လည်း မည်သည့်ပြဿနာမှ မရှိပေ။ ပို၍အကျိုးစဝါးဗ် ရစေမည့်ကိစ္စရပ်ဖြစ်ပေသည်။

(သက်မီလုလ်အဒဗ်ကျမ်း)

ဇိုက်ဒ်အိဗ်နုအရ်ကမ် (ﷺ)သခင်သည် မျက်စိနာနေသဖြင့် တမန်တော် မြတ်ကိုယ်တိုင် လူမမာမေးကြွလာတော်မူလေ့ရှိသည်။ လူမမာမေးရန် သွား ရောက်ခြင်းသည် စွန္နသ်တော် ဖြစ်သည်။

စအဒ်အိဗ်မို့အဗီဝက္ကားစ္စ် (ﷺ)သခင်က တင်ပြသည်။ “ဟဂ္ဂျဂျသွလ်ဝေ ဒါအ်”တွင် ကျွန်တော်အလွန်ပင် နာမကျန်းဖြစ်ရသောကြောင့် တမန်တော် မြတ်ကိုယ်တိုင် “အေယာဒသ် (လူမမာမေးရန်)ကြွမြန်းလာတော်မူရာ သခင်

က "ကျွန်တော် ဝေဒနာခံစားနေရပါပြီ၊ ကျွန်တော်သည် ကြွယ်ဝသူ ဖြစ်ပါသည်၊ သမီးတစ်ဦးမှအပ အမွေခံများမရှိပါ၊ သုံးချိုးနှစ်ချိုး ဆွဒကဟ် ပြုလိုက်လိုပါသည် " တမန်တော်မြတ် ﷺ က " မပြုရ "ဟု တားမြစ်တော်မူပါသည်။ "ပစ္စည်းတစ်ဝက်ဆွဒကဟ်ပြုရပါမည်လား " တမန်တော်မြတ် (ﷺ)က "မပြုရ" ဟုပင် တားတော်မူပြီး ဆက်လက်၍ သုံးပုံတစ်ပုံသာ ဆွဒကဟ်ပြုပါ။ ဤသည်လည်း သိပ်များသည်၊ အသင် မိမိအမွေခံများကို ကြွယ်ဝစွာထားခဲ့ခြင်းက ၎င်းတို့ကိုလက်ဖြန့်ရသည့် ဆင်းရဲသားအဖြစ် ထားသွားသည်ထက်ပို၍ကောင်းသည်။ အလ္လာဟ်ရှင်မြတ်နှစ်သက်ရန် သုံးစွဲလျှင် အလ္လာဟ်ထံမှ မုချအကျိုး စဝါးဗ်ရမည်။ ဇနီးသည်ကိုအစာခွံ့သည့်အပေါ်တွင်ပင် အဂျရ် (ကုသိုလ်) ရမည် "ဟု ပညာပေးတော်မူသည်။

(ဟယာသွတ်ဆွဟာဗဟ်၊ တွဲ ၂၊ စာ ၄၀၇)

၅။ မွတ်စလင်မ်တစ်ဦး၏ ဂျနာဇဟ်အား လိုက်ပါပို့ဆောင်သောအခါ၌ ဂျနာဇဟ်၏နောက်မှ လျှောက်လှမ်းရမည်။ ဤပညတ်ချက်သည် သေသူအား ဂုဏ်ပေးရန်အတွက် သတ်မှတ်ထားခြင်းဖြစ်သည်။ ဂျနာဇဟ်၏ရှေ့မှ လျှောက်လှမ်း၍ လိုက်ပါပို့ဆောင်ခြင်းကို ဖုကဟားအ် (ဓမ္မသတ်ပညာရှင်ကြီးများ)က "မက်ရူးဟ်" ဖြစ်သည်ဟု သတ်မှတ်ကြသည်။

(သက်မီလုလ်အဒဗ်ကျမ်း)

~~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~~

قال رسولُ الله –صلى الله عليه وسلم–: "مَن باتَ على ظَهرِ بَيتٍ ليس له حِجَارٌ فقد برِئَت منه الذمَّةُ". **سنن أبي داود ت الأرنؤوط (٧/ ٣٨٣)**.

(၁၂) အကြင်သူသည် မျက်နှာကြက်မရှိသော(အကာအရံ အတားအဆီး မရှိသော) အိမ်ခေါင်မိုးပေါ်၌ အိပ်ပါက ထိုသူနှင့်ပတ်သက်၍ အလ္လာဟ်အရှင် မြတ်ထံ၌ မည်သည့်တာဝန်မှ မရှိပေ။

**ရှင်းလင်းချက်**

အလိုသဘောမှာ မျက်နှာကြက်မရှိသည့် အိမ်ခေါင်မိုးပေါ် အိပ်ခြင်းကို တားမြစ်ထားပေသည်။ အဘယ်ကြောင့်ဆိုသော် အပေါ်ကနေ ပြုတ်ကျပြီး ဒုက္ခတစ်စုံတစ်ရာဖြစ်မှာကို စိုးရိမ်ရလေသည်။ ဤမိန့်ခွန်းချက်သည် အွမ္မာသ် အတွက် ကောင်းကျိုးလိုလားခြင်းဖြစ်သည်။

(သတ်က်မီလွှလ်အဒဗ်ကျမ်း)

~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~

قال رسول الله – صلى الله عليه وسلم –: "من أستعاذ بالله فأعيذوه، ومن سألكم بوجه الله فأعطُوه". **مسند أحمد ت شاكر (٣/ ٣٤)**.

(၁၃) အကြင်သူ တစ်ဦးတစ်ယောက်သည် အလ္လာဟ်ရှင်မြတ်အား အကြောင်းခံ၍ ခိုလှုံခွင့်တောင်းခံပါက ခိုလှုံခွင့်ပေးလိုက်ပါ။ ၎င်းနောက် ထိုအရှင်မြတ်အား အကြောင်းခံ၍ တောင်းခံပါကလည်း ၎င်းသူအား ပေးကမ်းလိုက်ကြလေကုန်။

**ရှင်းလင်းချက်**

အလ္လာဟ်ရှင်မြတ်ကို အကြောင်းခံ၍ တစ်ဦးတစ်ယောက်က ခိုလှုံခွင့် တောင်းခံမည်ဆိုလျှင် (သို့မဟုတ်) လိုအပ် ချက်တစ်ခုခုအား တောင်းခံမည် ဆိုလျှင် ၎င်း၏ လိုအပ်ချက်အား ဖြည့်ဆည်းပေးသင့် ပေသည်။

(သတ်ကဲမီလွှလ်အဒဗ်ကျမ်း)

~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~

قال رسولُ الله -صلى الله عليه وسلم-: "والذي نَفْسِي بيدِهِ، لا تدخُلُوا الجنَّةَ حتى تُؤمِنُوا، ولا تُؤمِنوا حتى تحابُّوا، أفلا أدلُكُم على أمرٍ إذا فعلتُمُوهُ تحاببتُم؟ أفشُوا السَّلام بينكُم". **سنن أبي داود ت الأرنؤوط (٧/ ٤٩٠)**.

(၁၄) ငါကိုယ်တော်မြတ်၏အသက်ဝိဉာဉ်အား စိုးပိုင်တော်မူသော အရှင်မြတ်၏ ကစမ်! အသင်တို့သည် စစ်မှန်သော အီမာန်ရှင်မဖြစ်သေးသမျှကာလပတ်လုံး ဂျန္နသ်သုခဘုံထဲသို့ ဝင်ရောက်ရမည်မဟုတ်။ ၎င်းနောက် အသင်တို့သည် အချင်းချင်းချစ်ခင်မှုမရှိသမျှကာလပတ်လုံး ပြည့်ဝသော အီမာန်ရှင်မဖြစ်နိုင်ပေ။ သို့ဖြစ်ရာ ငါကိုယ်တော်သည် အသင်တို့အား အသင်တို့အချင်းချင်း၌ ချစ်ခင်မှုရှိစေမည့်ကိစ္စရပ်အား မပြောပြရပေဘူးလား? အသင်တို့အချင်းချင်းကြား၌ တစ်ဦးကိုတစ်ဦး စလာမ်များများပေးကြ။

ရှင်းလင်းချက်

ဆင့်ပြန်ချက်၏အလိုသဘောမှာ "စလာမ်" သည် ချစ်ခင်မှု၏အကြောင်းခံဖြစ်ပေသည်။ အစ္စလာမ်သာသနာဝင်တိုင်း "စလာမ်" ပေးခြင်းအား ဆောင်ရွက်သင့်ပေသည်။ သို့မှသာလျှင် လူတွေအချင်းချင်း ကြား၌ ချစ်ခင်မှုများဖြစ်ပေါ်လာမည်။ ဤအချက်ကိုအကြောင်းခံပြီး အီမာန်၌ တိုးပွားမှုများ ဖြစ်ပေါ်လာမည်။ အီမာန်ပြည့်ဝခြင်းကတော့ ဂျန္နသ်ကိုဝင်ဖို့ အကြောင်းခံပင် ဖြစ်သည်။

(သတ်က်မီလွလ်အဒဗ်ကျမ်း)



«مَنْ أَحَبَّ أَنْ يَمْثُلَ لَهُ الرِّجَالُ قِيَامًا فَلْيَتَبَوَّأْ مَقْعَدَهُ مِنَ النَّارِ». سنن أبى داود (٤/ ٥٢٧).

(၁၅) အကြင်သူ၏ဆန္ဒ၌ လူပုဂ္ဂိုလ်တို့သည် ၎င်းအဖို့မတ်တတ်ရပ်နေကြစေရန် နှစ်သက်ပါက ၎င်းသည်မိမိစံမြန်းရာနေရာအဖြစ် ဂျဟန္နမ်ကို သတ် မှတ်ပါလေ။

## ရှင်းလင်းချက်

ဤပြင်းထန်လှသောသတိပေးမှုသည် ဤကိစ္စရပ် အား မောက်မာပလွှား၍ မာနထောင်လွှားသူတို့သာလျှင် နှစ်သက်သည့်အတွက်ကြောင့်ဖြစ်သည်။ မည်သည့်ကျိုးနွံရိုကျိုးသူမဆို မိမိရှေ့၌လူတို့ မတ်တတ်ရပ်ခြင်းကို နှစ်သက်ခြင်းမရှိပေ။ ကိုယ်တော်မြတ်(ﷺ)အပြင်သို့ ကြွမြန်းသည့်အခါ ကျွန်ုပ်တို့မတ်တတ်ရပ်ကြပြီး အိမ်တော်သို့ ဝင်ရောက်သွားတော်မူသည့်တိုင် မတ်တတ်ရပ်၍ ကြည့်နေကြပါသည်။ တစ်ခါတွင် တမန်တော်မြတ်သည် တောင်ဝှေးထောက်၍ ကျွန်တော်များထံရောက်လာ တော်မူရာ ကျွန်တော်တို့ မတ်တပ်ရပ်လိုက်ကြရာ တမန်တော်မြတ်(ﷺ)က “အဂျမီများကဲ့သို့ တစ်ဦးကို တစ်ဦး ကြည်ညိုသောအားဖြင့် လက်ပိုက်၍ မတ်တတ်မရပ်ကြနှင့်” ဟု သတိပေးတော်မူပါသည်။ တမန်တော်မြတ်က ﷺ “မတ်တတ်ရပ်ခြင်းသည် အရှင်မြတ်အဖို့သာ ဖြစ်ရမည်။ အခြားအတွက်မရပ်ရ၊ ဝင်လာသူကလည်း ငါ့အတွက် အားလုံးရပ်နေကြရမည်ဟူသော ဆန္ဒမထားရှိရ”ဟု လမ်းညွှန်တော်မူလိုက်သည်။ ဆွဟာဗဟ်တို့သည် တမန်တော်မြတ် (ﷺ)အား ဖူးတွေ့ရခြင်းကို အလွန်နှစ်သက်ကြသော်လည်း ကိုယ်တော်မြတ် ﷺ ကြွမြန်းလာ

သည် မြင်ကြရသောအခါ မတ်တတ်ရပ်လိုက်လေ့မရှိကြ၊ မတ်တတ်ရပ်ခြင်းကို ကိုယ်တော်ကလည်း နှစ်သက်တော်မူခြင်းမရှိ၊ တမန်တော်မြတ်(ﷺ) သည် ဆွဟာဗဟ်တို့နှင့် ဆက်ဆံရာတွင် ရိုးစင်းခြင်း ကိုသာ နှစ်သက်တော်မူသည်။ ပကာသနကို နှစ်မြို့တော်မမူပေ။ တစ်ဦး ထိုင်နေသောနေရာမှ ၎င်းကို ဖယ်ရှားပြီး ဝင်ထိုင်ခြင်းကို တမန်တော်မြတ်(ﷺ)က တားမြစ်တော်မူခဲ့သောကြောင့် အစ်ဗ်နို့အို့မရ် (ﷺ) သခင်သည် တစ်ဦးက မိမိနေရာမှထ၍ နေရာပေးလျှင်ပင် ထိုင်လေ့မရှိ၊ လူတစ်ချို့သည် အလီ (ﷺ)သခင် အပြင်ထွက်လာလျှင် ကြိုဆိုရန် ရှေ့တိုးစောင့်ဆိုင်းရာ သခင်က "ဘယ်လိုလဲ စစ်သားများပမာ ရင်ကော့ပြီး မတ်တတ်ရပ်နေလို့ပါလား "ဟု မိန့်ဆိုဟန့်တားတော်မူခဲ့သည်။

မို့အာဝေ့ယဟ် (ﷺ)သခင် အပြင်ထွက်လာစဉ် အစ်ဗ်နို့အာမိရ် (ﷺ) သခင်က မတ်တပ်ရပ်လိုက်သော်လည်း အစ်ဗ်နို့ဗိုင်းရ် (ﷺ)သခင်ကမူ ထိုင်နေသည်။ အစ်ဗ်နို့ဗိုင်းရ်သခင်သည် ၎င်းတို့နှစ်ပါးအနက် အဆင့်မြင့် အရှိန်ဩဇာရှိသူဖြစ်သည်။ မို့အာဝေ့ယဟ်(ﷺ)သခင်က ."အကြင်သူ၏ဆန္ဒ၌ ဗန္ဒာဟ်များသည် ၎င်းအဖို့ မတ်တတ်ရပ်နေကြစေရန် ရှိနေလျှင် ၎င်းသည် မိမိစံမြန်းရာ နေရာအဖြစ် ဂျဟန္နမ်ကို သတ်မှတ်ပါဟု တမန်တော်မြတ် (ﷺ)က မိန့်တော်မူသည်ကို ကျွန်တော်ကြားဘူးခဲ့သည်"ဟု အသိပေးလိုက်သည်။

(ဟယာသွတ်စ်ဆွဟာဗဟ်ကျမ်း၊ တွဲ ၂၊ စာ ၄၀၁၊ ၄၀၂)

~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~

قال رسول الله – صلى الله عليه وسلم –: "لا تتركوا النارَ في بيوتكم حين تنامون". **مسند أحمد ت شاكر (٤/ ٢٩١).**

(၁၆) အသင်တို့သည် မိမိတို့၏အိမ်များတွင် အိပ်စက်သည့်အခါ မီးများကို (မငြှိမ်းဘဲ) မထားကြနှင့်။

## ရှင်းလင်းချက်

ဤမိန့်ဆိုချက်သည်လည်းပဲ အွမ္မသ်၏ကောင်းကျိုးအတွက်ပင် ဖြစ်ပေသည်။ အဘယ်ကြောင့်ဆိုသော် မီးကိုမငြှိမ်းပါက မီးပွားလေးများမှတဆင့် အိမ်ကိုလောင်ကျွမ်းစေပြီး လူတို့၏ အသက်များပင် သေဆုံးနိုင် ပေသည်။ ဒီအတွက်ကြောင့် အထူးသတိပြု၍ မအိပ်ခင်အလျင်၌ မီးကို ငြှိမ်းသင့်ပေသည်။

ဟဇရသ်အဘူမူစာ (ﷺ)သခင်က ဆင့်ပြန်ခဲ့သည်။ တစ်ညှ၌ မဒီနဟ်မြို့တော်တွင် အိမ်တစ်အိမ်မီးလောင်ကျွမ်း၍ အိမ်သူအိမ်သားများ မီးဘေးသင့်ခဲ့သည်။ ဤအကြောင်းအား ကိုယ်တော်မြတ်(ﷺ)ကို တင်ပြသည့်အခါ ကိုယ်တော်မြတ်က အမိန့်ရှိတော်မူသည်မှာ မီးသည်အသင်တို့၏ရန်သူဖြစ်သည်။ ၎င်းသည်အသင်တို့၏ပစ္စည်းဥစ္စာနှင့် အသက်ကိုဆုံးရှုံးမှုဖြစ်စေမည်။ သို့ဖြစ်ပေရာ အသင်တို့အိပ်စက်တော့မည်ဆိုပါက မီးကို မုချငြှိမ်းသတ်ကြလေကုန်။

(မဇ္ဇာဟေ့ရေ့ဟတ်က်၊ တွဲ ၅၊ စာ ၁၅၆)



قَالَ رَسُول اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: «إِن أولى النّاس بِاللَّه مِن بدأهم بِالسَّلَامِ». **شرح السنة للبغوي (١٢/ ٢٦٣).**

(၁၇) ကေန်မုချလူသားများအနက် အလ္လာမ်အရှင်မြတ်အနှစ်သက်ဆုံးသော သူမှာ လူတို့အားမိမိဘက်မှအရင်ဦးစွာ စလာမ်နှုတ်ခွန်းဆက်သသောသူ ဖြစ်သည်။

## ရှင်းလင်းချက်

ဦးစွာပထမစလာမ် နှုတ်ခွန်းဆက်သခြင်းသည် အလ္လာဟ်ရှင်မြတ် နှင့် နီးကပ်ဖို့ရန်အတွက် အကြောင်းခံဖြစ်ပေသည်။ တကယ်တမ်းမှာ စလာမ် ပေးခြင်းသည် စွန္နသ်ဖြစ်၍ စလာမ်ယူခြင်းသည် ဝါဂျိဗ်ဖြစ်လေသည်။ သို့သော် စလာမ်တစ်ခုတည်းသာလျှင် ဝါဂျိဗ်ထက်ပိုသော စွန္နသ်ဖြစ်ပေသည်။ စလာမ်ပေးခြင်း၏ စဝါးဗ်ကုသိုလ်သည် စလာမ်ယူခြင်းထက် သာပိုပေသည်။

(သတ်ကဲမီလွလ်အဒဗ်ကျမ်း)

မုဇိုင်နဟ်မျိုးနွယ်ဝင် အဂရ် (ﷺ)အား တမန်တော်မြတ်က စွန်ပလွံအိတ် တစ်အိတ်ပေးရန် မိန့်လေသည်။ ယင်းစွန်ပလွံသီးကို အန်စွာရီတစ်ဦးထံမှ ယူပါရန်လည်း မိန့်လိုက်သည်။ ပေးရမည့် အန်စွာရီ သည် ပေးရန် ဆိုင်းငံ့နေသဖြင့် ၎င်းပုဂ္ဂိုလ်က တမန်တော်မြတ်ထံ ခစားပြီး အန်စွာရီက ယခုတိုင် မပေးသေး ကြောင်း တင်ပြရာ တမန်တော်မြတ်က “အိုအဗူဗကရ် နံနက်ကို အန်ဆွာရီထံသွားပြီး စွန်ပလွံသီးယူ၍ ဤပုဂ္ဂိုလ်အား ပေးလိုက်ပါ” ဟု မိန့်မှာတော်မူ လိုက်သည်။ သခင်က “ကောင်းပါပြီ အသင်သည် နံနက် ဘယ်နေရာမှာ စောင့်နေပါ”ဟု ချိန်းဆိုလိုက်သည်။ ကျွန်တော် နမာဇ်

ဖတ်ပြီးသွားတော့ သခင့်ကို တွေ့ရသဖြင့် နှစ်ယောက်သား ထိုအန်ဆွာရီထံ သွားရာလမ်းတွင် တွေ့သူ တိုင်းက သခင်အား စလာမ်ဆက်သကြသည်။ သခင်က "အသင့်အား ဦးဦး ဖျားဖျား စလာမ်ပေး၍ အသင့်ထက်ထူးမြတ်မှုကို ဆွတ်ခူးသွားကြပြီ၊ နောင် ကို သင့်ထက်အလျင် ဘယ်သူမှစလာမ် မဦးစေနှင့် "ဟု ပညာပေးတော်မူပါသည်။ သည့်နောက် အဝေးမှမြင်ရသည်နှင့် ၎င်းတို့စလာမ်မပေးကြမီ ၎င်းက စလာမ်ပေးလေ့ရှိသည်။ ဇွဟ်ရဟ်(ﷺ) သခင်က အဗူဗကရ်(ﷺ)သခင်နှင့်အတူ စီးနင်းသွားစဉ် သခင်သည် တွေ့ရသူ တိုင်းကို စလာမ်ပေးရာ ၎င်းတို့က များပြားသောစာလုံးများဖြင့် စလာမ် တုံ့ပြန်ကြသဖြင့် သခင်က "ယနေ့ အခြားသူများသည် ကျွန်ုပ်ထက်ပို၍ ခိုင်ရ်အကျိုးကို ဆွတ်ခူးသွားကြပြီး ကျုပ်တို့ကို အနိုင်ယူလိုက်ကြပြီ"ဟု အသိပေးတော်မူသည်။

အဘူအိုမာမဟ် (ﷺ)သခင်က အမိန့်ရှိသည်မှာ " လုပ်ဆောင်မှုတိုင်း တွင် နှစ်မြို့သည်ဖြစ်စေ၊ မနှစ်မြို့သည်ဖြစ်စေ ဆွဗရ်ကို လက်ကိုင်ပြုပါ။ ဆွဗရ်သည် အကောင်းဆုံးအရည်အချင်းဖြစ်သည်။ ယခုသင်တို့သည် ဒွန္နယာ ကို နှစ်ခြိုက်နေကြပြီး ဒွန္နယာကလည်း အသင်တို့ရှေ့၌ ဖွင့်ချထားပေပြီ၊ ဒွန္နယာသည် လှပသောဝတ်စုံကို ဝတ်ဆင်ထားပေပြီ၊ ဆွဟာဗဟ်များကမူ အမလ်ကိုသာ မက်မောကြသဖြင့် လူတို့အား စလာမ်ဆက်သရန် လူတို့က လည်း ၎င်းတို့ကို စလာမ်ဆက်သကြရန် မိမိတို့၏နေအိမ်ရှေ့တွင်ထွက်၍ ထိုင် နေတတ်ကြသည်။ ဆွဟာဗဟ်များသည် အတူတူလျှောက်နေကြစဉ် သစ်ပင် ခြား၍ ကင်းကွာလိုက်ရလျှင် ပြန်ဆုံကြသည်နှင့် စလာမ်ဆက်သကြပြန်သည်။

သုဖိုင်းလ်အိဗ်နုအိုဗိုင်ယ် (ﷺ)သခင်က တင်ပြသည်။ အဗ်ဒွလ္လာဟ် အစ်ဗ်နို့အိုမရ် (ﷺ)သခင်သည် ကျွန်တော့်ကိုခေါ်၍ ဈေးသွားလေ့ရှိရာ အမှိုက်ပုံနားတွင်ပင်ဖြစ်စေ၊ ဆင်းရဲသည့်ရောင်းသူတွေ့သူတိုင်းကို စလာမ်ပေးလေ့ရှိသည်။ တစ်ခေါက်တွင် ဈေးသွားရန်လာခေါ်ရာ ကျွန်တော်က “ရောင်းသူထံလည်းမသွား၊ ဈေးလည်းမမေး၊ ပစ္စည်းကို မေးစမ်းခြင်းလည်း မပြု၊ တစ်နေရာရာတွင်လည်း မထိုင်ဘဲ ဈေးသို့မည်သည့်အတွက်သွားပါမည်နည်း၊ ဤနေရာတွင် ထိုင်၍စကားစမြည် ပြောကြပါစို့ ”ဟုပြောရာ သခင်က “ဟဲ့ ဗိုက်ရွဲသူ ငါက စလာမ်ပေးဖို့ သက်သက်သွားတာ၊ တွေ့ဆုံးရသူတိုင်းကို စလာမ်ပေးကြမည်” ဟု ဖြေကြားတော်မူသည်။

ပုဂ္ဂိုလ်တစ်ဦးက တမန်တော်မြတ်ထံ ခစားသောအခါ အက်စ္စလာမု အလိုင်က ယာရစူလလ္လာဟ်ဟု စလာမ်ဆက်သရာ တမန်တော်မြတ်က “ဝ အလိုင်ကပ်စ်စလာမ် ဝရဟ်မသွလ္လာဟ် ဝဗရကာသုဟ်”ဟု စလာမ်ပြန်တော်မူလိုက်သည်။

ကုရ်အာန်ကျမ်းတော်မြတ်၌ အလ္လာဟ်ရှင်မြတ်က အမိန့်ရှိတော်မူသည်မှာ “အသင်တို့သည် တနည်းနည်းဖြင့် စလာမ်မေတ္တာပို့သ နှုတ်ခွန်းဆက်သခြင်းကို ခံကြရသောအခါ အသင်တို့သည် ထိုနှုတ်ခွန်းဆက်သခြင်းထက် ပိုမို၍ကောင်းမြတ်သောနည်းမျိုးဖြင့် စလာမ်မေတ္တာပြန်ပို့၍ နှုတ်ခွန်းဆက်သကြလေကုန်” သို့တည်းမဟုတ် ထိုနှုတ်ခွန်းဆက်သခြင်းခံကြရသည့် အတိုင်းပင် တုံ့ပြန်ကြလေကုန်။

(စူရဟ်နိစာအ်၊ အာယသ် ၈၆)

အာအေရှာဟ်(ﷺ)သခင်မအား ကောင်းကင်တမန်ကြီး ဂျိဗ်ရအီးလ်(ﷺ) သခင်က စလာမ်ဆက်သကြောင်း တမန်တော်မြတ်က ပြောကြားတော်မူရာ သခင်မက "ဝဗရကာသို့ဟူ"ထက် ပိုမိုနှုတ်ခွန်းဆက်သချင်နေတော်မူသဖြင့် တမန်တော်မြတ်က " စလာမ်သည် ဝဗရကာသိုဟူ ဖြင့် ပြည့်စုံသွားပေပြီ" ဟု ပညာပေးတော်မူလိုက်သည်။

(ဟယာသွတ်ဆွ် ဆွဟာဗဟ်ကျမ်း၊ တွဲ ၂၊ စာ ၃၉၅)

~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~

قَالَ –ﷺ–: «الأَيْمَنُ فَالأَيْمَنُ». **شرح السنة للبغوي (١١/ ٣٨٦).**

(၁၈) လုပ်ငန်းများကိုအစပြုပါက ဦးစွာပထမညာဘက်ကနေအစပြုရမည်ဖြစ်ပြီး ထို့နောက်မှသာ ဘယ်ဘက်ကိုအသုံးပြုရမည်ဖြစ်သည်။

**ရှင်းလင်းချက်**

ဟဒီးဆ်တော်၌ လုပ်ရပ်တိုင်းကို ညာဘက်ကနေ အစပြုလုပ်ဆောင်ဖို့ အရေးကြီးကြောင်း တင်ပြထားပေသည်။ ကိုယ်တော် မြတ်ကိုယ်တော်တိုင် ပင်လျှင် လေးလေးနက်နက်ဖြင့်ကျင့်သုံးရန် အရေးကြီးကြောင်း အမိန့်ရှိတော်မူ၏။ ထို့ကြောင့် ကိုယ်တော်မြတ်သည် ဖိနပ်စီးသော အခါ ညာဘက်မှ စတင်စီးလေ့ရှိပြီး ခေါင်းဖြီးသောအခါ၌လည်း ညာဘက်မှ စတင်လေ့ရှိသည်။

လက်ယာ (ညာ)လက်ဖြင့် စတင်လုပ်ဆောင်ရမည့်ကိစ္စရပ်များမှာ-

(၁) တစ်စုံတစ်ခုကို စတင်၍ကိုင်တွယ်ခြင်း။

(၂) အစားအသောက်များစားခြင်း။

(၃) လက်ဆွဲနှုတ်ဆက်ခြင်း။

(၄) ဝိုဇူအစပြုခြင်း။

(၅) အဝတ်အစားဝတ်ဆင်ခြင်း။

(၆) စာရေးသားခြင်း တို့ဖြစ်ပါသည်။

လက်ဝဲ(ဘယ်)လက်ဖြင့် ပြုလုပ်ရမည့်ကိစ္စရပ်များမှာ -

(၁) မသန့်သောအရာများကို ဖယ်ရှားခြင်း။

(၂) နှာချေးညှစ်ခြင်း။

(၃) အဝတ်အစားချွတ်ခြင်း။

(၄) ဖိနပ်ကိုင်ခြင်း။

(၅) ကျင်ကြီးကျင်ငယ်စွန့်ပြီးနောက် ဆေးကြောသန့်စင်ခြင်းတို့ ဖြစ်ပါသည်။

( သတ်ကဲမီလုလ်အဒဗ်ကျမ်း )

~~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~~

قال رسول الله ﷺ: أكرموا الخبز. **المعجم الكبير (٢٢/ ٣٣٥)**.

(၁၉) အစားအစာကို ဂုဏ်ပေးပါ။

## ရှင်းလင်းချက်

အလိုသဘောမှာ အစားအသောက်များကို ဂုဏ်ပေး၍ ရိုသေသမှု ထားရမည်။ ဟဒီးဆ်တော်တစ်ရပ်၌ ဒီအချက်နှင့်ပတ်သက်၍ ရှင်းလင်းစွာ လာရှိထားပေသည်။ မိဘနှစ်ပါး၏အမိန့်အား ဖီဆန်သူ၊ ဆွေမျိုးအဆက် ဖြတ်သူနှင့် အစားအသောက်များကို ဂုဏ်ပေးလေးစားမှုမရှိသူတို့သည် အာခေရတ်(တမလွန်)၌ ပြစ်ဒဏ်ပေးခံရမည်ဖြစ်သလို လောက၌လည်း လက်ငင်းအပြစ်ဒဏ်ပေးခြင်းခံရမည် ဖြစ်သည်။ ဒီအတွက်ကြောင့် အစား အစာကို ဂုဏ်ပေးရန် အလွန်အင်မတန်မှ အရေးကြီးသည်။

( သတ်က်မီလွလ်အဒဗ်ကျမ်း )

ကိုယ်တော်မြတ်(ﷺ)က အမိန့်ရှိတော်မူသည်မှာ အစားအသောက်စား ရာ၌ ဗိစ်မိလ္လာဟ်ဆို၍ စားပါ။ ညာလက်ဖြင့်စားပါ။ မိမိ၏ရှေ့မှ ပန်းကန် ၏အနီးဆုံးနေရာမှစားပါ။ အစားအသောက်စားရာ၌ ဗိစ်မိလ္လာဟ် မဆိုပါက ရှိုင်သွာန်သည် ထိုအစားအစာအား မိမိအတွက် ဟလာဟ်အဖြစ်မှတ်ယူလေ သည်။ အစားအသောက် စားပါက ညာလက်ဖြင့် စားရမည်။ ဘယ်လက်ဖြင့် စားသောက်ခြင်းသည် ရှိုင်သွာန်၏လုပ်ရပ်ဖြစ်သည်။ စားပြီးနောက် ပန်းကန် နှင့်ခွက်တို့ကို လက်ချောင်းကလေးများဖြင့် သုပ်ကာ ၎င်းကိုလျှာဖြင့် လျှက်၍ ပြောင်စင်အောင် စားသောက်ပါ။ ဤသို့ပြုလုပ်သူအား ပန်းကန်က မဂ်ဖိရ်သ် လွတ်ငြိမ်းချမ်းသာခွင့်တောင်းခံပေသည်။

ထမင်းလုပ် မုန့်အပိုင်းအစနှင့် စားစရာတစ်စုံတစ်ရာလက်ထဲမှ လွတ်ကျသွားလျှင် သန့်စင်အောင်ပြု၍ စားရမည်။ အစားအစာအားမှီ၍စားခြင်း၊ လဲလျောင်း၍စားသောက်ခြင်း မပြုရ။

တမန်တော်မြတ်(ﷺ)နှင့် ဆွဟာဗဟ်အပေါင်းတို့သည် "ဒပ်စ်သရ်ခါန်" အခင်းများခင်း၍ စားသုံးကြပါသည်။

ဟဇရတ်အဘူဟိုရိုင်ရဟ်(ﷺ)သခင်က အမိန့်ရှိသည်မှာ ကိုယ်တော်မြတ်(ﷺ)သခင်သည် မည်သည့်အစားအစာကိုမှ ပြစ်တင်ဝေဖန်ခြင်းမပြုပေ။ အကယ်၍ ကြိုက်နှစ်သက်တော်မူပါက သုံးဆောင်တော်မူ၍ မနှစ်သက်ပါက ကိုယ်တော်သည် သုံးဆောင်တော်မမူပေ။

ဟဇရတ်အဘူစအီးဒ်ခွဒ်ရီ (ﷺ)သခင်က အမိန့်ရှိသည်မှာ ကိုယ်တော်မြတ် (ﷺ)သည် အစားအသောက်စားပြီးသွားသောအခါ၌

اَلْحَمْدُ لِلّٰهِ الَّذِيْ أَطْعَمَنَا وَسَقَانَا وَجَعَلَنَا مِنَ الْمُسْلِمِيْنَ.

ဟူသော ဒိုအာကို ရွတ်ဆိုတော်မူသည်။

(မဇ္ဇာဟေ့ရေ့ဟတ်က်ကျမ်း၊ တွဲ ၅၊ စာ ၈၁၊ ၈၂၊ ၈၃၊ ၈၄၊ ၈၅၊ ၈၆၊ ၈၈၊ ၁၀၄)

~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~

قال رسول الله –صلَّى الله عليه وسلم: "الصبر رضاً". **سنن أبي داود ت الأرنؤوط (٥/ ٤٣).**

(၂၀) သည်းခံမြဲသိပ်ခြင်းသည် ကျေနပ်နှစ်သက်လက်ခံခြင်းပင် ဖြစ်သည်။

## ရှင်းလင်းချက်

ဆွဗရ် (သည်းခံမြဲသိပ်တရား)ထားခြင်းသည် ပမာဆိုသော် အလ္လာဟ်ရှင်မြတ်၏ ဆုံးဖြတ်ချက်အမိန့်တော်များအပေါ် ကျေနပ် နှစ်သက်လက်ခံခြင်းပင်ဖြစ်သည်။ ဆွဗရ်နှင့်ပတ်သက်၍ အစ္စလာမ်သာသနာတော်၌ ကြီးမားသောဖဇီလသ် (အကျိုးကျေးဇူး)များ လာရှိထားပါသည်။ ကုရ်အာန်ကျမ်းတော်မြတ်၌ အလ္လာဟ်ရှင်မြတ်က အမိန့်ရှိတော်မူသည်မှာ "အို အီမာန်ရှင်အပေါင်းတို့ အသင်တို့သည် သည်းခံတရားထားခြင်းဖြင့်လည်းကောင်း၊ ဆွလာသ်ဝတ်ပြုခြင်းဖြင့်လည်းကောင်း (အလ္လာဟ်ရှင်မြတ်ထံတော်မှ) ကူညီထောက်ပံ့စောင်မတော်မူခြင်းကို ရယူကြကုန်လော့။ ဧကန်အမှန် အလ္လာဟ်ရှင်မြတ်သည် ခန္တီတရား ထားရှိသော သူတို့နှင့် အတူတကွ(အမြဲ) ရှိတော်မူလေသတည်း။

( စူရဟ်ဗကရဟ်၊ အာယသ် ၁၅၃ )

ဆွလာသ်ဝတ်ပြုခြင်းသည် ဝတ်ပြုခြင်းအပေါင်းတို့၏အချုပ် မုအ်မင်န်သက်ဝင်ယုံကြည်သောသူတို့၏ "မိအ်ရာဂ်"မည်၏။ စကြာဝဠာအပေါင်းတို့ကို မွေးမြူတော်မူသော အရှင်မြတ်ထံ တိတ်ဆိတ်စွာအသနားခံခြင်းမည်၏။

ကုရ်အာန်ကျမ်းမြတ် (၅၇:၄) တွင် အလ္လာဟ်ရှင်မြတ်သည် သူငါခပ်သိမ်းနှင့် အတူတကွ နေရာဌာနတိုင်းတွင် ရှိတော်မူသည်ဟု မိန့်ဆိုထားတော်မူသည်။ ဤအာယသ်တွင်မူ အလ္လာဟ်ရှင်မြတ်သည် ခန္တီတရားထားရှိသူ

များနှင့် အတူတကွရှိတော်မူသည်ဟု မိန့်ဆိုထားလေသည်။ ဆိုလိုသည်ကား အလ္လာဟ်ရှင်မြတ်သည် လူခပ်သိမ်းတို့ကို စောင်မကြည့်ရှုတော်မူ၏။ သို့ရာတွင် ခန္တီတရားရှိသူများကိုမူကား အထူးသဖြင့် စောင်မကြည့်ရှုတော်မူသည်ဟု ဆိုလိုသည်။

**(ကုရ်အာန်ကျမ်းမြတ် မြန်မာဘာသာပြန် အတွဲ ၁၊ စာ ၁၁၀)**

ဆွဗရ်(သည်းခံမြဲသိပ်တရား)သည် ကျယ်ဝန်းမှု၊ ချောင်လည်မှု၏ သော့တံဖြစ်သည်။ ဘဝတက်လမ်းတစ်ခုကို ဖြတ်သန်းသည့်အခါ အနိမ့်အမြင့် အတက်အကျ၊ ကြပ်တည်းမှု၊ ချောင်လည်မှုတို့ကို များစွာကြုံတွေ့ရမည် ဖြစ်သည်။ ဆွဗရ် (သည်းခံတရား)သည် အလ္လာဟ်ရှင်မြတ် အလွန်နှစ်သက်သောအရာဖြစ်သည်။ ဆိုလိုသည်မှာ ကြပ်တည်းမှု၊ ချောင်လည်မှု (၂)ခုလုံးသည် အလ္လာဟ်ရှင်မြတ် ဘက်တော်မှသာဖြစ်လေသည်။ သို့သော် ကြပ်တည်းသောအခြေအနေများနှင့်နေ့ရက်များတွင် လူသားသည် သည်းခံမြဲသိပ်တရားကို လက်မလွှတ်သင့်ပေ။ ပြီးနောက် အလ္လာဟ်ရှင်မြတ်ထံတော်မှ ဤစမ်းသပ်ချက်နှင့်ပတ်သက်၍ ကြံ့ကြံ့ခံရပ်တည်နိုင်စွမ်း ချီးမြှင့်ဖို့ရာအတွက်လည်း ဒိုအာတစ်ခုလုပ်ဆောင်ခဲ့ပါမူ အလ္လာဟ်ရှင်မြတ်သည် ထိုသူအား မုချကေန် ချောင်လည်မှုကို ချီးမြှင့်တော်မူမည်ဖြစ်သည်။ အလ္လာဟ်ရှင်မြတ်က ကုရ်အာန်ကျမ်းတော်မြတ်တွင် အမိန့်ရှိထားသကဲ့သို့ ဖြစ်သည်။ “ ခက်ခဲကြပ်တည်းမှုတိုင်း၏ နောက်တွင် လွယ်ကူမှုရှိပေသည်။” သို့ရှိရာ ချောင်လည်မှုရဖို့အတွက် အကြောင်းခံမှာ ဆွဗရ် (သည်းခံမြို့သိပ်တရား)ပင်ဖြစ်သည်။ အကြင်သူသည် အခက်အခဲကြုံတွေ့ရသည့်အချိန်၌ သည်းခံမြဲသိပ်ပါမူ ထိုသူအနေဖြင့် မုချ

မှတ်ယူရမည်မှာ အလ္လာဟ်ရှင်မြတ်သည် ကောန်မလွဲ အဆင်ပြေ ချောမွေ့ပြီး ချောင်လည်သောနေ့များကို ချီးမြင့်မည်ဖြစ်ကြောင်း မှတ်ယူရ မည်ဖြစ်သည်။

( ဟဒီယသုတ် လစ်သွာလိဗီးန်ကျမ်း၊ စာ ၂၀။)

ဟဇရသ်ကသာဒဟ်(ﷺ)သခင်က ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ်(ﷺ) အမိန့်ရှိတော်မူသည်မှာ အကြင်သူသည် အချက်(၄)ချက်ရရှိပါက ဒွန္နယာ အာခေရသ် ၏ နိအ်မသ် (စည်းစိမ်) အားလုံးရရှိသည်ဟု မှတ်ယူလိုက်ပါ။

(၁) ဇိက်ရ် အလ္လာဟ်ရှင်မြတ်အား တသသတိရနေသော နှုတ်လျှာ

(၂) ရှုကွရ် အလ္လာဟ်ရှင်မြတ်အား ကျေးဇူးတင်နေသော နှလုံးသား

(၃) သည်းခံမြဲသိပ်တရားရှိသော ခန္ဓာကိုယ်

(၄) မွန်မြတ်၍ အမိန့်နာခံသော ဇနီးသည်

ဟဇရသ်ဒါဝူးဒ်(ﷺ)သည် အလ္လာဟ်ရှင်မြတ်ထံတော်၌ ဒိုအာတောင်းခံလေသည်။ ယာအလ္လာဟ် ကျွန်တော်မျိုးအား အရာ(၄)ခု ချီးမြှင့်တော်မူပါ။

(၁) အလ္လာဟ်ရှင်မြတ်ကို တသသော နှုတ်လျှာ

(၂) အလ္လာဟ်ရှင်မြတ်ကို ကျေးဇူးတင်သော နှလုံးသား

(၃) သည်းခံမြဲသိပ်သော ခန္ဓာကိုယ်

(၄) လောကီ၊ လောကုတ္တရာ နှစ်ဌာနစလုံး၌ အထောက်အပံ့ဖြစ်စေမည့် ဇနီးသည်

ထို့နောက် ကျွန်တော်မျိုးအား ဤအချက်(၄)ချက်ကနေ ထိန်းသိမ်းစောင့်ရှောက်တော်မူပါ။

(၁) မိမိကို အမိန့်ပြန်ပေးမည့် အမိန့်ဖီဆန်သော သား/သမီးများ

(၂) အရွယ်မတိုင်ခင် အိုမင်းရင့်ရော်စေမည့် ဇနီးသည်

(၃) ကျွန်ုပ်အတွက် ဒုက္ခဖြစ်စေမည့် ပစ္စည်းဥစ္စာ

(၄) ကျွန်ုပ်၏ ကောင်းမှုများကို ထိန်ချန်ထားပြီး မကောင်းမှုများကို ဖောက်သည်ချမည့် မကောင်းသော အိမ်နီးချင်း

(သန်ဗီဟုလ်ဂါဖီလီးန်ကျမ်း၊ စာ၃၈၀။)

~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~

قال رسول الله –صلي الله عليه وسلم –: "اَلصَّوْمُ جُنَّةٌ. **مسند أحمد ت شاكر (٨/ ١٤٦).**

(၂၁) ရိုဇာဟ်(ဥပုသ်)စောင့်ထိန်းခြင်းသည် ဂျဟန္နမ်မီးမှ အကာအကွယ်ပေးသော ဒိုင်းဖြစ်သည်။

## ရှင်းလင်းချက်

ရိုဇာဟ်သည် ဒိုင်းသဖွယ် ဖြစ်သည်။ ကေယာမသ်နေ့၌ ရိုဇာဟ်စောင့်ထိန်းသူကို ဂျဟန္နမ်၏မီးမှ (အင်ရှာအလ္လာဟ်) အကာအကွယ်ပေးလိမ့်မည်။ အကယ်၍ ထိုရိုဇာဟ်စောင့်ထိန်းသူသည် ရှိရအသ် တရားတော်အရ ရိုဇာဟ်စောင့်ထိန်းသူ ဖြစ်မည်ဆိုလျှင် ဂျဟန္နမ်မီးမှ အကာအကွယ်ရမည်ဖြစ်ပါသည်။

ရမဇ္ဇာန်လမြတ် ကျရောက်လာပါက ဟဇရသ်အုမရ်(ﷺ)သခင်အမိန့်ရှိသည်မှာ ဝမ်းသာစရာပင်ဖြစ်သည်။ ကျွန်ုပ်တို့၏ ဂိုနာဟ်တွေခွင့်လွှတ်ခံရမည့် လရောက်လာချေပြီ။ ရမ္ဗာဇာန်လမြတ်သည် ကောင်းခြင်းများ ပြည့်ကျပ်နေသော လဖြစ်သည်။ နေ့မှာ ရိုဇဟ်၊ ည မှာ သရာဝီးဟ်နမားဇ်ရမ္မဇန်လမြတ်၌ သုံးစွဲခြင်းသည် ဂျေဟားဒ်(အလ္လာဟ်လမ်း)၌ သုံးစွဲသကဲ့သို့စဝါးဗ်ရမည် ဖြစ်သည်။ နောက်ဆုံးတွင် ကိုယ်တော်မြတ်(ﷺ)သည်တရားဒေသနာဟောကြားတော်မူရင်း အမိန့်ရှိသည်မှာ အလွန်အင်မတန်မှဗရ်ကာသ်မင်္ဂလာအပေါင်းနှင့် ပြည့်စုံလှသော လတစ်လရောက်လာတော့မည်ဖြစ်သည်။ ထိုလ၌ လပေါင်း တစ်ထောင်ထက်သာပိုမွန်မြတ်သော ညတစ်ညရှိလေသည်။ ထိုလ၌ ထားရသော ရိုဇာဟ်သည် ဖရတ်ဇ်ဖြစ်၍ ညအခါ၌

ဝတ်ပြုရသော သရာဝီးဟ်နမာဇ် သည် စွန္နသ်ဖြစ်သည်။ ထိုလဌ် ပြုလုပ်သော နဖစ်လ်အေဗာဒသ်၏ အကျိုးစဝါးဗ်သည် ဖရတ်ဇ်နှင့်အညီရမည် ဖြစ်ပြီး ဖရတ်ဇ်၏စဝါးဗ်သည် အဆ(၇၀)ရေးမှတ်ခြင်းခံရမည်ဖြစ်သည်။ ဤလသည် သည်းခံမြဲသိပ် ရသောလဖြစ်သည်။ ရမဇာန်လတွင် အီမာန်ရှင်၏ ရိဇ်ဇ်ရိက္ခာ အား သာပိုချိမြှင့်ခံရသည်။ ရိုဇဟ်ထားသူတစ်ဦးကို ဝါဖြေစရာဖြင့် ဧည့်ခံ ကျွေးမွေးပါက ဂိုနာဟ်များ ပလပ်ပေးခံရမည်ဖြစ်ပြီး ကျွန်ကို သူကောင်းပြု တာနှင့်အညီ စဝါးဗ်ကုသိုလ် ရရှိမည်ဖြစ်သည်။ ဝါဖြေပွဲဌ် အစားအသောက် များ များပြားစရာမလိုပေ။ သို့သာမက နို့တစ်ငုံ၊ ရေတစ်ငုံ၊ စွန်ပလွံသီး တစ်လုံးနဲ့တင်လည်း ဤကဲ့သို့ စဝါးဗ်ရရှိမည်ဖြစ်သည်။

ရိုဇဟ်သည်ကို ဗိုက်ပြည့်သွားအောင် ကျွေးမွေးသောသူ၏ ဂိုနာဟ် အကုသိုလ်များ ခွင့်လွှတ်ပလပ်ပေးခြင်း ခံရသည်သာမက ထိုသူ့အား ကိယာမသ်နေ့တွင် ငါကိုယ်တော်၏ ကောင်စရ်ကန်တော်မှ ရေကိုလည်း တိုက်ကျွေးခံရမည်ဖြစ်သည်။ ထို့နောက်မှာ ဂျန္နာသ်ထဲကိုဝင်သည် အထိ ရေငတ်တော့ မည်မဟုတ်ပေ။

ကိုယ်တော်မြတ် ﷺ က အမိန့်ရှိတော်မူသည်မှာ အကျင့်ဓလေ့(၆)ခု သည် အလွန်ကောင်းမွန်သည်။

(၁) အလ္လာဟ်ရှင်မြတ်အတွက် ဂျေဟားဒ်ပြုခြင်း။

(၂) ပူအိုက်သောနေ့ဌ် ရိုဇဟ်ထားခြင်း။

(၃) ဒုက္ခရဲ့အပေါ်မှာ အပြည့်အဝ သည်းခံမြဲသိပ်ခြင်း။

(၄) မိမိမှန်နေသော် ငြားလည်း ပြဿနာမလုပ်ခြင်း။

(၅) မိုးတိမ်အုံ့ဆိုင်းနေတဲ့ နေ့မှာ နမားဇ်၏ကိုအလျင်အမြန် ဖတ်ခြင်း။

(၆) အေးသော ရာသီ၌ ဝုဇူကိုကျနစွာ လုပ်ခြင်း တို့ဖြစ်သည်။

(သန်မီဟုလ် ဂါဖိလီးန်ကျမ်း၊ စာ ၄၈၇)

ဟဇရသ်အဘူဟုရိုင်ရဟ်(ﷺ)သခင်ကဆင့်ပြန်ခဲ့သည်ကိုယ်တော်မြတ်(ﷺ)အမိန့်ရှိတော်မူသည်မှာ "ပုဂ္ဂိုလ်(၃)ဦး၏ ဒိုအာမှာ အပယ်ခံရသည်မရှိပေ။ (၁) အစ်ဖ်သာရီအချိန်တွင် ရိုဇာဟ်ထားသူ တောင်းသောဒိုအာ။ (၂) တရားမျှတစွာ အုပ်ချုပ်သော ဘုရင်၏ ဒိုအာ။ (၃) မတရားမှုပြုခြင်းခံရသူ၏ ဒိုအာ။ ထိုသူတို့၏ဒိုအာကို အလ္လာဟ်ရှင်မြတ်သည် မိုးတိမ်များထက်သို့ မယူတော်မူ၍ ယင်းဒိုအာအဖို့ ကောင်းကင်၏ တံခါးများကို ဖွင့်ပေးတော်မူ၏။ ထို့အပြင် အလ္လာဟ် ရှင်မြတ်သည် သင့်အား ဧကန်မုချ ကူညီတော်မူမည်။ သို့သော် အကြောင်းအားလျော်စွာ အခိုက်အတန့်အားဖြင့် ကြန့်ကြာကောင်း ကြန့်ကြာပေမည်။

ဟဒီးဆ်တော် တစ်ရပ်တွင် အလ္လာဟ်ရှင်မြတ်သည် အရှ်တော်ကို ထမ်းထားကြသော မလာအေ့ကဟ်တို့အား အသင်တို့သည် မိမိတို့၏ အေ့ဗာဒသ် ဝတ်ပြုမှုများကို ရပ်ဆိုင်းထားကာ ရိုဇာဟ်စောင့်ထိန်းသူတို့ ပြုသော ဒိုအာ၌ အာမီးန် ဆိုကြ" ဟု မိန့်ကြားတော်မူကြောင်း လာရှိ၏။

(ဖဇာအေလေ့ ရမ္မာဇန်၊စာ၃၄)

~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~

قَالَ النَّبِيُّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: «الفَخِذُ عَوْرَةٌ». **شرح السنة للبغوي (٩/ ٢٢)**.

(၂၂) ပေါင်သည် ဖုံးအုပ်ရမည့်အရာ ဖြစ်လေသည်။

## ရှင်းလင်းချက်

ဆိုလိုသည်မှာ ပေါင်သည် ဖုံးအုပ်ရမည့် အစိတ်အပိုင်းထဲ၌ ပါဝင်လေသည်။ လူတွေအရှေ့၌ လူမြင်ကွင်း၌ ပေါင်ကိုဖော်ပိုင်ခွင့်မရှိပေ။ အကယ်၍ ပေါင်ကိုဖော်ထားပါက အပြစ်ထိုက်သူဖြစ်သွားမည်။ သို့သော် တစ်ချို့သူများသည် အရှက်တရားကင်းမဲ့စွာဖြင့် ဒူးဖော် ပေါင်ဖော် သွားလာ နေကြပေသည်။ အမျိုးသားများကို မဆိုထားနှင့် လုံခြုံစွာဝတ်စားဆင်ယင်ရန် အရေးကြီးလှသော အမျိုးသမီးများပင် ရှရီအသ်နှင့် ဆန့်ကျင်၍ ဝတ်စားဆင် ယင်ပြီး သွားလာနေသည်ကို မြင်နေရခြင်းမှာ အလွန်အင်မတန်မှ စိတ်မ ကောင်းဖြစ်ရပြီး ဝမ်းနည်းဖွယ်ရာ စိုးရိမ်ဖွယ်ရာ ဖြစ်လေသည်။ အလ္လာဟ်ရှင် မြတ်သည် လူသားအား အရှ်ရဖ္ဖလ်မခ်လူကားသ်အဖြစ် ဖန်ဆင်း၍ သဘာဝ ကောင်းခြင်းများဖြင့် ပြည့်ဝစေပါသည်။ ထိုကောင်းခြင်း များထဲမှ တစ်ခုမှာ အရှက်တရားပင်ဖြစ်သည်။ တရားတော်၏ ရှုထောင့်အရ အရှက်တရားဆိုသည်မှာ လူသားကို မကောင်းသော မနှစ်မြို့ဖွယ် အရာများမှ ရှောင်ကွင်းစေသော အရည်အချင်းကို ဆိုလိုပါသည်။ အစ္စလာမ်သာသနာက အရှက်တရား၏ အရေးကြီးပုံကို ကောင်းစွာ ဖွင့်ဆိုထားပါသည်။ သို့မှသာ မုအ်မင်န်တို့သည် လူမှုအသိုင်းအဝိုင်းတွင် အရှက်တရားကို လက်ကိုင်ထား၍ ငြိမ်းချမ်းသာယာမှုကို ဖြန့်ချီသူများအဖြစ် နေထိုင်ကြမည်။ တမန်တော်မြတ်(ﷺ)က

တစ်ကြိမ်တွင် အန်ဆွာရီတစ်ပါးအား မြင်တွေ့ရသည်မှာ ၎င်းသည် မိမိညီအား နားချနေသည်မှာ အရှက်တရားသည် အီမာန်၏ အစိတ်အပိုင်းဖြစ်သည်။ တစ်ခြားဟာဒီးဆ်တော်တစ်ရပ်တွင် အမိန့်ရှိသည်မှာ-

قَالَ النَّبِيّ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: «الحْيَاء لَا يَأْتِي إِلَّا بِخَير». **شرح السنة للبغوي (١٣/ ١٧٣)**.

အရှက်တရားသည် ကောင်းခြင်း၏ အကြောင်းခံဖြစ်သည်။ လူသည် အရှက်တရား ထားသလောက် ကောင်းမှုဘက်သို့တိုးလာမည်။ အာခိရသ်တွင် ဂျန္နသ်ရရှိစေမည့် အချင်းလက္ခဏာများထဲမှ အရှက်တရားသည် အကြောင်းခံ တစ်ခုဖြစ်သည်။ တမန်တော်မြတ်အမိန့်ရှိတော်မူသည်မှာ-

قَالَ رَسُولُ اللَّهِ – صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ –: "الحْيَاءُ مِنْ الْإِيمَانِ، وَالْإِيمَانُ فِي الجْنَّةِ، وَالْبَذَاءُ مِنْ الجْفَاءِ، وَالجْفَاءُ فِي النَّارِ". **سنن ابن ماجه ت الأرنؤوط (٥/ ٢٧٩)**.

အရှက်တရားသည် အီမာန်၏ အစိတ်ပိုင်းတစ်ပိုင်းဖြစ်သည်။ အီမာန်သည် ဂျန္နသ်သို့သွားရမည့် အကြောင်းခံတစ်ရပ် ဖြစ်သည်။ အရှက်တရားကင်းမဲ့မှုသည် မိုက်မဲမှုဖြစ်သည်။ မိုက်မဲမှုသည် ဂျဟန္နမ်သို့ လားရမည့်အကြောင်းခံတစ်ခုဖြစ်သည်။ အရှက်တရားကြောင့် လူ၏အပြော နှင့် လုပ်ရပ်တို့တွင် လှပတင့်တယ်မှု ဖြစ်ပေါ်လာလေသည်။ သို့ဖြစ်၍ အရှက်တရားရှိသူတို့သည် မခ်လူးက်(အဖန်ဆင်းခံ)များ၏ အမြင်တွင် စွဲမက်ဖွယ်ဖြစ်လေသည်။ ကုရ်အာန် ကျမ်းတော်မြတ်တွင် အလ္လာဟ် ﷻ ကအမိန့် ရှိသည်မှာ-

وَالْحَافِظِينَ فُرُوجَهُمْ وَالْحَافِظَاتِ وَالذَّاكِرِينَ اللَّهَ كَثِيرًا وَالذَّاكِرَاتِ، أَعَدَّ اللَّهُ لَهُمْ مَغْفِرَةً وَأَجْرًا عَظِيمًا.

“မိမိတို့၏အရှက်ကို ထိန်းသိမ်းသူ အမျိုးသား/အမျိုးသမီးများ၊ အလ္လာဟ်ရှင်အား များစွာသတိရသူ/သူမများ ၎င်းတို့အတွက် အလ္လာဟ်ရှင်မြတ်က မင်္ဂလာဖွေရည်နှင့် ကြီးမားသော ကုသိုလ်စဝါးဗ် အသင့်ပြုလုပ်ထားတော်မူသည်။ ”

(စူရဟ်အဟ်ဇာဗ်၊ အာယသ်)

အကြင်သူသည် အရှက်တရားဟူသည့်နေ့အိမသ်မှ လက်မဲ့ဖြစ်လျှင် စင်စစ်ထိုသူသည် နဖူးစာဆိုးသူပင်ဖြစ်တော့သည်။ ဤသို့သောသူထံမှ အကောင်းကို မက်ထားနေခြင်းသည် အကျိုးမဲ့ဖြစ်သည်။ တမန်တော်မြတ် ﷺ အမိန့်ရှိတော်မူ သည်မှာ-

إِذَا لَمْ تَسْتَحِ فَاصْنَعْ مَا شِئْتَ. **المعجم الكبير للطبراني (١٧/ ٢٣٥)**.

အရှက်မရှိလျှင် အသင်လုပ်ချင်တာလုပ်ပါ။ အရှက်မဲ့သူသည် မည်သည့် ကိုယ်ကျင့်တရားကိုမှ လိုက်နာခြင်းမရှိချေ။ ထိုသူ၏ ဘဝသည် နှာခေါင်းကြိုးပြတ်သွားသော ကုလားအုပ်ပမာဖြစ်သည်။ အရှက်တရားနှင့် အရည်အချင်းရှိသူသာ သန့်ပြန့်၍အပြစ်ကင်းသောဘဝမျိုးကို မွေးမြူနေထိုင်ပေသည်။ အရှက်တရားရှိပြီး အပြစ်ကင်းသောဘဝမျိုးကို မွေးမြူနေထိုင်နိုင်သော သောင်ဖီးက်စွမ်းအား အလ္လာဟ်ရှင် ကျွန်တော်မျိုးတို့အား ချီးမြှင့်တော်မူပါစေ။ (အာမီးန်)

~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~

"لَا تَتَمَنَّوْا الْمَوْتَ". سنن ابن ماجه ت الأرنؤوط (٥/ ٢٦٥).

(၂၃) သေခြင်းတရားအား မျှော်လင့်မက်ထားခြင်းမပြုလေနှင့်။

**ရှင်းလင်းချက်**

သေခြင်းတရားကို မမျှော်လင့်ပါနဲ့။ အကယ်၍ သေခြင်းတရားကို မျှော်လင့်ခြင်းသည် တရားတော်၏ ရှုထောင့်အရ ဝမ်းနည်းပူဆွေး စရာတစ်ခုခုကြောင့် (ပမာဆိုသော် လူတစ်ဦးအား မည်သည့် အကြောင်းမှ မရှိဘဲ ဂိုနာဟ်(အကုသိုလ်)တစ်ခုကို ကျူးလွန်သည်ဟု စွပ်စွဲသမုတ်၍ နာမည်ပျက်စေလိုက်သည်။ ထို့နောက် စွပ်စွဲခံရသော လူပုဂ္ဂိုလ်က စဉ်းစားသည်မှာ ငါ့အနေနဲ့ ဒီကိစ္စအား သည်းခံနိုင်ခြင်းမရှိပါ။ သည်းခံမြဲသိပ်နိုင်မှု မရှိြခင်း၏ ဒုက္ခ၌ လုံးပမ်းရခြင်းထက် ငါ့အတွက် သေခြင်းတရား ရောက်လာ ခြင်းက ပိုကောင်းမည်ဟု မျှော်လင့်မိခြင်း (ဤသို့ မျှော်လင့်ခြင်းအား တားမြစ်ချက် မရှိပေ) ဥပမာ - ဟဇရသ်မရ်ယမ် ﷺ ကအမိန့်ရှိသည်မှာ -

يَا لَيْتَنِي مِتُّ قَبْلَ هَذَا وَكُنْتُ نَسْيًا مَنْسِيًّا.

သို့သော် ဒွန္နယာ(လောက)၏ ပူဆွေးသောကတစ်စုံတစ်ရာကြောင့် သေခြင်းတရား မျှော်လင့်ခြင်း မပိုင်ပေ။

(သက်မီလွတ်အဒဗ်ကျမ်း)

သေခြင်းတရားအား မျှော်လင့်ခြင်းမပြုရသော်လည်း လူသားသည် မိမိ တစ်နေ့သေဆုံးမည်ဖြစ်ကြောင်း နေ့စဉ်သတိရနေရမည်။ သူတော်စင် တစ်ပါးက အမိန့်ရှိသည်မှာ အသိဉာဏ်ရှိသူတိုင်း အချက်(၃)ချက်အား မမေ့ လျော့သင့်ပေ။

(၁) လောကနှင့် လောက၏ အခြေအနေ အားလုံးပျက်စီးသွားမည်ဖြစ်ခြင်း။

(၂) သေခြင်းတရား။

(၃) လူသားကို ငြိမ်းချမ်းမှုမရရှိ စေသောဒုက္ခများ။

(သန်ဗီဟုလ်ဂါဖီလီးန်ကျမ်း၊ စာ ၄၇)

ဟာမစ်ဒ်အလ်လိဖားဖ် ﷺ သခင်က အမိန့်ရှိသည်မှာ အကြင်သူသည် သေခြင်းတရားအား မြောက်များစွာ သတိရပါက ထိုသူအားအချက်(၃)ချက် ချီးမြှင့် ခြင်းခံရမည်။

(၁) သောင်ဗဟ်လုပ်ခွင့်အား လျင်မြန်စွာ ချီးမြှင့်ခံရမည်။

(၂) အလ္လာဟ်ရှင်မြတ်ချီးမြှင့်သော အနည်းငယ်သော အရာအပေါ်မှာ ရောင့်ရဲ တင်းတိမ်မှု ချီးမြှင့်ခံရမည်။

(၃) အေဗာဒသ် (ခဝတ်မှုပြုရာ)၌ စိတ်ရောကိုယ်ပါ စုစည်း၍ လုပ်ခွင့် ချီးမြှင့်ခံရမည်။

၎င်းနောက်အကြင်သူသည် သေခြင်းတရားကို မေ့လျော့ပါက ထိုသူအား အချက်(၃)ချက်အစားပေးခြင်းခံရမည်။

(၁) သောင်ဗဟ်လုပ်ခွင့်အလျင်အမြန် ရရှိမည် မဟုတ်ပေ။

(၂) အမြောက်အမြား ပစ္စည်းများချီးမြှင့်ခြင်းခံရသော်လည်း ရောင့်ရဲတင်းတိမ်မှု ရရှိမည်မဟုတ်ပေ။

(၃) အေဗာဒသ်၌ ပျင်းရိမှုပေါ့လျော့မှု ဖြစ်ပေါ်လာလိမ့်မည်။

ဟဇရသ်အီစာအလိုင်းဟိစ္စလာမ်အား တစ်ဦးသောသူက လျှောက်ထားသည်မှာ ကိုယ်တော်မြတ်သည် လတ်တလော သေဆုံးသူအား အလ္လာဟ် အမိန့်တော်ဖြင့် ပြန်လည်ရှင်ထစေသည်။ ယခု လွန်လေပြီးသောအခါက

သေဆုံးခဲ့သောရုပ်အလောင်းအား ရှင်ထစေ၍ ပြသတော်မူပါ။ ထိုသူ၏ တောင်းဆိုမှုကြောင့် သခင်က ဟဇရတ်နူးဟ် ﷺ ၏သား (စာမ်) ဆိုသော ပုဂ္ဂိုလ်ကို အလ္လာဟ်ရှင်မြတ်၏အမိန့်တော်ဖြင့် ပြန်လည်ရှင်ထစေသည်။ ထို (စာမ်)ဆိုသောပုဂ္ဂိုလ်သည် ကဗရ် (သင်္ချိုင်း)မှ ပြန်လည်ရှင်ထသောအခါ ၎င်း၏ဆံပင်နှင့် မုတ်ဆိတ်တို့မှာ ဖြူဖွေးနေသည်။ ဟဇရတ်အီစာ ﷺ က မေးမြန်းသည်မှာ ဆံပင်နှင့် မုတ်ဆိတ်များ ဘာကြောင့်ဖြူနေရသနည်း? အသင်၏ ခေတ်ကာလ၌ အသင်သည် အိုမင်ခြင်းမရှိသေးပေ။ (စာမ်) ကဖြေကြားသည်မှာ ကျွန်ုပ်အသံတစ်သံကြားရ၍ ကေယာမသ်ဖြစ်ပြီဟု ထင်လိုက်မိသည်။ ထိုစိုးရိမ်စိတ်ကြောင့် ဆံပင်မွေး၊ မုတ်ဆိတ်မွေးများ ဖြူသွားတော့သည်။ ဟဇရတ်အီစာ က အသင်၏ သေဆုံးကွယ်လွန်ခြင်းသည် အချိန်ဘယ်လောက်ရှိမည်နည်းဟု မေးမြန်းသောအခါ ဖြေကြားသည်မှာ နှစ်ပေါင်း(၄၀၀၀)အရင်ကဖြစ်သည်။ သို့သော် ယခုအချိန်ထိ သေခြင်းတရား ၏ ခံစားမှုဒဏ်သည် မကုန်ဆုံသေးပေ။

(သန်ဗီဟုလ် ဂါဖိလီးန်၊ စာ ၅၁)

ဟဇရတ်ဟစန် ﷺ သခင်က ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ က အမိန့်ရှိတော်မူသည်မှာ သေခြင်းတရား၏ဒုက္ခသည် ဓားရှည်နှင့် အချက်ပေါင်း (၃၀၀)ခုတ်သည်နှင့်ညီမျှလေသည်။ ဆက်လက်၍ကိုယ်တော်က အမိန့်ရှိသည်မှာ သေခြင်းတရား၏ ပြင်းထန်မှုနှင့် နာကျင်မှုဒုက္ခသည် ငါကိုယ်တော်မြတ်၏ အွမ္မသ်အတွက်နဆွီဟာသ် (ဆုံးမစကား၊ သံဝေဂတရား) ပင်ဖြစ်သည်။

(သန်ဗီဟုလ် ဂါဖိလီးန်ကျမ်း၊ စာ ၄၅)

~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~

اِلْزَمْ بَيْتَكَ. المستدرك على الصحيحين للحاكم (٤/ ٣١٥).

(၂၄) မိမိအိမ်၌သာ အမြဲတစေနေထိုင်ပါ။

**ရှင်းလင်းချက်**

အိမ်၌သာနေပါဟု အမိန့်ရှိရခြင်း အလိုသဘောမှာ ဂိုနဟ်များကို မထိန်းချုပ်နိုင်မှာ စိုးရိမ်သည့်အတွက်ကြောင့် အကြောင်းမရှိဘဲ ဈေးများ၊ လူစည်ကားရာနေရာများသို့ သွားလာခြင်း မပြုကြရန်ဖြစ်သည်။ အကယ်၍ မိမိအိမ်၌သာ နေထိုင်မည်ဆိုပါက ဂိုနာဟ်များကို ရှောင်ကြဉ်နိုင်မည် ဖြစ်သည်။ ထို့အတွက်ကြောင့် လူသားသည် မိမိ၏ လိုအပ်ချက်များကို ဖြည့်ဆည်းပြီးလျှင် အိမ်သို့ပြန်လာသင့်ပြီး မိမိအိမ်၌သာ အချိန်များစုကို ကုန်ဆုံးသင့် ပေသည်။ **(သက်မီလွှလ်အဒဗ်ကျမ်း)**

မစ်ရှ်ကားသ်ကျမ်း၏ ဟဒီးဆ်တော်တစ်ရပ်၌ လာရှိသည်မှာ ဟဇရသ်အွတ်က် ဗဟ်ဗင်န်အာမစ်ရင်သခင်က ဆင့်ပြန်ခဲ့သည်။ ကျွန်ုပ်သည် ကိုယ်တော်မြတ်ထံပါး၌ လျှောက်ထားသည်မှာ လွတ်မြောက်ခြင်း၊ အောင်မြင်ခြင်းတို့၏ အကြောင်းခံများသည် အဘယ်အရာများ ဖြစ်သနည်း? သို့ရှိရာ ကိုယ်တော်မြတ်က အမိန့်ရှိတော်မူသည်မှာ -

(၁) မိမိ၏ နှုတ်လျှာကို ထိန်းသိမ်းပါ။

(၂) မိမိအိမ်၌သာ နေထိုင်ပါ။

(၃) မိမိ၏ ဂိုနာဟ် ပြစ်မှုများအတွက် (နောင်တရ၍) ငိုကြွေးပါ။

(မရှ္ဓာဟော့ရေဟာတ်က်ကျမ်း၊ တွဲ ၅၊ စာ ၄၇၆)

~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~

قَالَ رَسُولُ اللَّهِ صَلَّى اللهُ عَلَيْهِ وَسَلَّمَ: «الْعِدَةُ دَيْنٌ». **المعجم الأوسط (٤/ ٢٣).**

(၂၅) ကတိပေးခြင်းသည် အကြွေးပင်ဖြစ်သည်။

**ရှင်းလင်းချက်**

ကတိပေးခြင်းသည် အကြွေးပင်ဖြစ်သည်။ ဆိုလိုသည်မှာ အကြွေးယူပြီးနောက် ပြန်ဆပ်ရန် အရေးကြီးသကဲ့သို့ ကတိပေးပြီးနောက် ထိုကတိကို ပြည့်ဝအောင် ဆောင်ရွက်ရန်လည်း အရေးကြီးပေသည်။

ဟဒီးဆ်တော်တစ်ရပ်၌ ဟဇရသ်အဗ္ဗဒွလ္လာဟ် ဗင်န်အဗီဟမ်စားအ် ﵁ သခင်က ဆင့်ပြန်ခဲ့သည်။ ကျွန်ုပ်သည် ကိုယ်တော်မြတ်ﷺနဗီမဖြစ်ခင် ကာလအလျင်က ကိုယ်တော်မြတ်နှင့် အရောင်းအဝယ် လုပ်ခဲ့ဖူးသည်။ ၎င်းနောက် ကိုယ်တော်မြတ်ကိုပေးစရာ အနည်းငယ်ကျန်သွား၍ ကျွန်ုပ်က ကိုယ်တော်မြတ်အား ထိုနေရာ၌ ပစ္စည်းများယူလာမည်ဟု ကတိပေးလိုက်သည်။ ပြီးနောက် ကျွန်ုပ်မေ့သွားပြီး (၃)ရက်မြောက်ပြီးမှ ကျွန်ုပ်သတိရ၍ ထိုနေရာသို့လာခဲ့ရာ ကိုယ်တော်မြတ်သည် ထိုနေရာ၌ စောင့်ဆိုင်းလျက် ရှိတော်မူပေသည်။ ကိုယ်တော်မြတ်က အမိန့်ရှိသည်မှာ အသင်သည် ကျွန်ုပ်အား ဒုက္ခဖြစ်အောင် လုပ်လေသည်။ ကျွန်ုပ်ဒီနေရာ၌ အသင့်ကို စောင့်ဆိုင်းနေတာ (၃)ရက် ရှိပြီး ဖြစ်သည်ဟု အမိန့်ရှိတော်မူပေသည်။

ကိုယ်တော်မြတ်သည် ကတိကို ပြည့်ဝအောင် ဆောင်ရွက်ရန်အတွက် (၃)ရက် တိုင်တိုင် စောင့်ဆိုင်းနေတော်မူသည်။ ၎င်းနောက် ဤဟဒီးဆ်တော်၌ မိမိအွမ္မသ် ကို ကတိတည်ရန်အတွက် သအ်လီးမ် (သင်ကြား) ပေးခြင်းဖြစ်သည်။ ဒီလို ကတိကို တည်ရန်အမိန့်ပညတ်ချက်မှာ ရှေးယခင်

အွမ္မသ်မျှား၌လည်း ရှိပေသည်။ နဗီတမန်တော် အပေါင်းသည်လည်း ကတိကိုပြည့်ဝအောင် ဆောင်ရွက်ကြပေသည်။ ဟဇရသ်အိဗ်ရာဟီးမ် ﷷ နှင့် ပတ်သက်၍အလ္လာဟ်က အမိန့်ရှိသည်မှာ - وَإِبْرَاهِيمَ الَّذِي وَفَّىٰ.

(မဇ္ဇာ ဟော့ရေ့ဟတ်ကျမ်း၊ တွဲ ၅၊ စာ၄၉၆)

~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~

قال رسول الله ﷺ: "الدين النصيحة". **مسند أحمد ت شاكر (٣/ ٣٩٧).**

(၂၆) သာသနာဟူသည် ကောင်းကျိုး လိုလားခြင်းပင်ဖြစ်သည်။

**ရှင်းလင်းချက်**

သာသနာဟူသည် ကောင်းကျိုးလိုလားခြင်းပင် ဖြစ်လေသည်။ ကောင်းကျိုးလိုလားခြင်းသည် ပုံစံအမျိုးမျိုးရှိလေသည်။ အလ္လာဟ်ရှင်မြတ်နှင့် ပတ်သက်၍ ကောင်းကျိုးလိုလားခြင်းမှာ အလ္လာဟ်ရှင်မြတ်၏ ဇာတိတော်နှင့် ဂုဏ်တော်များ၌ တစ်ဦးတစ်ယောက်ကိုမှ မပါဝင်စေခြင်းဖြစ်သည်။ ကိုယ်တော်မြတ်ﷺနှင့် ပတ်သက်၍ ကောင်းကျိုးလိုလားခြင်းမှာ ကိုယ်တော်မြတ်ﷺ၏ ပို့ချမှုများကို လက်ခံခြင်း လူသားများနှင့် ပတ်သက်၍ ကောင်းကျိုးလိုလားခြင်းမှာ ၎င်းတို့၏အကျိုးဖြစ်ထွန်းစေမည့် ကိစ္စရပ်များကို စဉ်းစားတွေးတော ဆောင်ရွက်ခြင်းဖြစ်သည်။ (သက်မီလွှလ်အဒဗ်ကျမ်း)

~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~

قَيِّدْ وَتَوَكَّلْ. **كنز العمال في سنن الأقوال والأفعال (٣/ ١٠١).**

(၂၇) ချည်နှောင်မှုပြုလုပ်ပါ။ ၎င်းနောက် အလ္လာဟ်ရှင်မြတ်ကိုလည်း ယုံပုံအားထားပါ။

**ရှင်းလင်းချက်**

ဤသည် ဟဒီးဆ်တော်တစ်ခု၏ အစိတ်အပိုင်း ဖြစ်လေသည်။ ယင်းဟဒီးဆ်တော်၌ လားရှိသည်မှာ ဆွဟာဗဟ် တစ်ပါးသည် ကိုယ်တော်မြတ်ထံ အစီအနင်း စီးနင်းလျက် အခစားဝင်ရောက်၍ လျှောက်ထားသည်မှာ အို-အလ္လာဟ်၏ရစူလ်၊ ဤသတ္တဝါကို ချည်နှောင်ပြီး အလ္လာဟ့်အပေါ်မှာ ယုံပုံအားထားရမည်လော။ (သို့မဟုတ်) မချည်နှောင်ဘဲနှင့် အလ္လာဟ် အပေါ်ယုံပုံအားထားရမည်လော? ကိုယ်တော်မြတ်က အမိန့်ရှိသည်မှာ ချည်နှောင်မှုပြုပြီး အလ္လာဟ်အပေါ် ယုံကြည်အားထားပါ။ ဥပမာအားဖြင့် ဤဟဆီးဒ်တော်၌ သဝက်ကွလ် (ယုံပုံအားထားခြင်း)၏ ဟကီကသ် (အနှစ်သာရ)ကို ရှင်းပြထားခြင်းဖြစ်ပါသည်။ အကြောင်းကတော့ အလ္လာဟ် ရှင်မြတ် ဖန်ဆင်းတော်မူထားသော အကြောင်းခံများနှင့် ပတ်သက်၍ ရွေးချယ်စရာရှိတာကို မုချရွေးချယ်ပါ။ သို့သော် ယုံကြည်အားကိုးမှုကတော့ အကြောင်းခံများကို ဖယ်ရှား၍ အလ္လာဟ်ရှင်မြတ်အပေါ်မှာ ယုံကြည် အားကိုးပါ။ ဘယ်သောအခါမှ အလ္လာဟ်အရှင်မြတ်၏ အလိုဆန္ဒမပါဘဲ မည်သည့်ကိစ္စရပ်၊ မည်သည့်လုပ်ရပ်မှ မဖြစ်နိုင်ပေ။

(သက်မီလွှလ်အဒဗ်ကျမ်း)

တမန်တော်မြတ် ﷺ သည် နဂျဒ်ဒေသသို့ ဆွဟာဗဟ်များနှင့်အတူ ကြွတော်မူပေသည်။ အပြန်ခရီး၏ နေ့ခင်း၌ တောင်ကြားတစ်နေရာတွင် စခန်းချကြသည်။ ဆွဟာဗဟ်များ ဆူးပင်ရိပ်ခိုရန် ပြန့်နှံ့သွားကြသဖြင့် တမန်တော်မြတ်ﷺသည်လည်း သစ်ပင်ရိပ်တွင် အနားယူတော်မူလိုက်သည်။ အားလုံးအိပ်စက်နေကြစဉ် တမန်တော်မြတ် ﷺ က ဂျာဗိရ် ؓ သခင်အား ရုတ်တရက်ခေါ်လိုက်သည်။ ကိုယ်တော့်အနီးတွင် တောသားတစ်ဦး ထိုင်နေ၏။ ကိုယ်တော်က ငါအိပ်စက်တော်မူနေစဉ် ဤပုဂ္ဂိုလ်သည် ချိတ်ထားသော ဓားအိမ်မှ ငါ့ဓားကို ဆွဲထုတ်လျက် “အသင့်ကိုမည်သူကယ်မလဲ ” ဟု ခြိမ်းခြောက်တော့သည်။ ငါက “အလ္လာဟ်” (ကယ်မည်) ဟုဖြေလိုက်သည်။ ၎င်းကထပ်မံမေးရာ ကျုပ်က “အလ္လာဟ်” ဟူ၍ ဖြေလိုက်သောကြောင့် ဤသူသည် ဓားကိုဓားအိမ်ထဲထည့်ပြီး ထိုင်နေသည်။ စင်စစ်၎င်းသည် တမန်တော်မြတ်အား လုပ်ကြံသတ်ဖြတ်ရန် ကြံစည်ထားပြီးဖြစ်ပါလျှက် တမန်တော်မြတ်က ၎င်းကို အပြစ်မပေးဘဲ လွှတ်လိုက်တော်မူသည်။

တောသားအမည်မှာ ဂေါင်းရပ်စ်အိဗ်နို့ဟာရိစ် ဖြစ်သည်။ အလ္လာဟ်ဟု ဖြေသံကြားရာ ၎င်း၏လက်မှ ဓားလွတ်ကျသွားသည်။ တမန်တော်မြတ် ﷺက ဓားကိုင် လိုက်တော်မူစဉ်မှာပင် ၎င်းက “အသင်သည် ဓားကိုင်သူများအနက် အကောင်းဆုံးဖြစ်သည် ခွင့်လွှတ်ပါ” ဟု တောင်းပန်ရာ “ အလ္လာဟ်မှတစ်ပါး ခဝပ်ကိုးကွယ်ရာ အရှင်မရှိဟု သက်သေထွက်ဆိုပါသလား” ဟု တမန်တော်မြတ်ﷺက မေးတော်မူသော်လည်း ၎င်းကလက်မခံခဲ့၊ သို့ရာတွင် ကိုယ်တော်နှင့် နောင်အခါတွင် စစ်မခင်းပါ။ ကိုယ်တော်အား တိုက်ခိုက်သူ ကိုလည်း ကူညီမည်မဟုတ်ပါ”ဟု ကတိပေးလာသည်။ တမန်တော်မြတ်ﷺက

၎င်းကို လွှတ်လိုက်ရာ ၎င်းက မိမိအဖော်များအား "ကျုပ်သည် လူတို့အနက် အကောင်းဆုံး ပုဂ္ဂိုလ်ထံမှ ပြန်လာခဲ့သည်" ဟု ဝန်ခံပြောဆိုလိုက်သည်။

တစ်ညဉ့် ဟဇရသ်အလီ ﵁ သခင်သည် ဗလီထဲသို့ သွား၍ နဖိလ်နမားဇ် ဖတ်တော်မူစဉ်အချို့က ၎င်းကိုစောင့်ကြပ်ပေးကြသည်။ နမားဇ်ဖတ်ပြီး ထွက်လာစဉ် "အဘယ်ကြောင့် ထိုင်နေကြသလဲ" ဟုမေးရာ ၎င်းတို့က "ကင်းစောင့်နေကြပါသည်"ဟုဖြေရာ သခင်က " ကောင်းကင်ဘုံသားတို့ရန်မှ ကာကွယ်တာလား၊ မြေပြင်၏အန္တရာယ်မှ စောင့်ရှောက်သလား"ဟု မေးတော်မူသည်။ ၎င်းတို့က " မြေပြင်သားတို့ရန်မှ ဖြစ်ပါသည်"ဟု ဖြေကြရာ "မြေပြင်ပေါ်မှာ ဘာမျှမဖြစ်နိုင်ပါ။ အထက်ကောင်းကင်မှ ဆုံးဖြတ်ချက် မလာသေးလျှင် လူတို့က အန္တရာယ်မပေးနိုင်ပါ။ လူတိုင်းတွင် ဘေးဟူသမျှကို ကာကွယ်စောင့်ရှောက်ကြသည့် ဖရစ်ရှ်သာဟ်နှစ်ပါးစီရှိနေသည်။ သက်ဒီး၏ ဆုံးဖြတ်ချက် ကျလာလျှင် ထိုဖရိရှ်သဟ်သည်လည်း ဗန္ဒာဟ်နှင့် ဆုံးဖြတ်ချက် အကြားမှ ဖယ်ခွာသွားသည်။ အရှင်မြတ်ဘက်မှ သတ်မှတ်ချိန်ထိသာ ကျုပ်အား စောင့်ရှောက်ရန် ခိုင်ခံ့သော အစီအစဉ်ရှိပြီးဖြစ်သည်။ အချိန်တန်၍ မောသ်(သေခြင်းတရား) ရောက်လာရသောအခါ ယင်းအစီအစဉ်လည်း ရုပ်ဆိုင်းသွားရသည်။ အီမာန်ယကီးန်အရသာကို မမြည်းစားနိုင်ပါ။ ရသော အကောင်း (သို့မဟုတ်) ကျသောအဆိုးမှာ ဖယ်ရှားသွားရန်မရှိ။ အကောင်း အဆိုးတို့ ဖယ်ရှားခြင်းမှာ ၎င်းအပေါ်ကျရန်မရှိ၍ ခံယူချက်မရှိသရွေ့ အီမာန်ကို မစူးစမ်းနိုင်ပါ။

(ဟယာသွတ်ဆွဟာဗဟ်၊ အတွဲ ၂စာ ၄၇၆)

သူတော်စင်တစ်ပါးအား ပုဂ္ဂိုလ်တစ်ဦးက မေးမြန်းသည်မှာ ယကီးန် (ယုံကြည်ချက်)နှင့် သဝက္ကုလ် (အားကိုအားထား)ပြုခြင်းတို့သည် မည်သို့ ကွာခြားပါသနည်း? အမိန့်ရှိသည်မှာ တမလွန်နှင့် ပတ်သက်သည့် အကြောင်း ခံများအားလုံးကို အဆင်သင့်ပြုလုပ်ပြီးနောက်မှ အလ္လာဟ်ရှင်မြတ်အပေါ် ယုံကြည်အားကိုးခြင်းကို ''ယကီးန်'' ဟုခေါ်ပြီး လောကနှင့် ပတ်သက်သည့် အကြောင်းခံများအား စုဆောင်းပြီးနောက်မှာ လောကနှင့်သက်ဆိုင်သည့်ကိစ္စ ရပ်များ၌ အလ္လာဟ်ရှင်မြတ်အပေါ်ဝယ် ယုံပုံအားထားခြင်းကို “သဝက္ကလ်”ဟု ခေါ်သည်။ (သန်ဗီဟုလ်ဂါဖိလီးန်ကျမ်း၊ စာ ၃၉၆ )

~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~

يَدُ اللهِ مع الجماعةِ. **جامع الأصول في أحاديث الرسول (٦/ ٥٦٤).**

(၂၈) အလ္လာဟ်ရှင်မြတ်၏ကူညီစောင်မတော်မူခြင်းသည် ဂျမာအသ်(စုစည်းမှု)နှင့်တကွ ရှိလေသည်။

**ရှင်းလင်းချက်**

ဆိုလိုသည်မှာ အလ္လာဟ်ရှင်မြတ်၏အကူအညီသည် မွတ်စ်လင်မ်တို့၏ အစုအဖွဲ့နှင့်တကွ ဖြစ်လေသည်။ အကြင်သူသည် မွတ်စ်လင်မ်အသိုင်းအဝိုင်းနှင့် သီးခြားနေပါက ထိုသူအား အလ္လာဟ်ရှင်မြတ်ဘက်တော်မှ မည်သည့် အကူအညီမှ မရှိပေ။

(သတ်က်မီလွှလ်အဒဗ်ကျမ်း)

~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~

"المرءُ مع مَنْ أَحَبَّ". **مسند أحمد ت شاكر (٤/ ٧).**

(၂၉) လူသားသည် မိမိနှစ်သက်သောသူနှင့်အတူ ပြန်လည်ရှင်ထရမည်။

**ရှင်းလင်းချက်**

အလိုသဘောမှာ လူသားသည် ဟရှရ်ကွင်းပြင်၌ လောကတွင် ရှိစဉ်အခါက မိမိနှစ်သက်ခဲ့သောသူနှင့် ပြန်လည်ရှင်ထရမည်ဖြစ်သည်။ ထို့ကြောင့် အကယ်၍ လောက၌ ပုဂ္ဂိုလ်တစ်ဦးသည် ဝလီသူတော်စင်များ၊ သူမွန်သူမြတ်များနှင့် အာလင်သာသနာ့ပညာရှင်များအား ချစ်ခင်နှစ်သက်၍ ၎င်းတို့နှင့် အတူ နေထိုင်ခဲ့ပါက အာခေရသ် (နောင်တမလွန်)တွင်လည်း ၎င်းတို့နှင့်အတူ ရှင်ပြန်ထ၍ နေထိုင်ရမည်ဖြစ်သည်။ ၎င်းနောက် အကယ်၍ လောက၌ ပုဂ္ဂိုလ်တစ်ဦးသည် ကာဖိရ်(သွေဖည်)သူများ၊ ဆိုးသွမ်းမိုက်မဲသူ များနှင့်အတူ နေထိုင်ခဲ့ပါက အာခေရသ်တွင်လည်း ၎င်းတို့နှင့်အတူ ရှင်ပြန်ထ၍ အတူနေထိုင်ရ မည်ဖြစ်သည်။

( သတ်ကဲမီလုလ်အဒဗ်ကျမ်း )

မွန်မြတ်သောသူတို့နှင့် ပေါင်းသင်းဆက်ဆံမှုကြောင့် အလ္လာဟ်ရှင်မြတ်က ချေးကဲ့သို့သတ္တဝါကိုပင် ဂုဏ်ပေးမြှင့်တင်တော်မူသည်။ အစ်ဗ်နေ့ အသွီယဟ်(ﷺ)သခင်က အမိန့်ရှိသည်မှာ ကျွန်ုပ်၏ဖခင်ဖြစ်သူက ပြောပြသည်။ ငါသည် အဘွလ်ဖဇ္ဇလ်ဂျောင်ဟရီ (ﷺ) သခင်၏ ဗယာန်တစ်ခုကို ဟစ်ဂျရီ (၄၂၉)ခုနှစ်၌ အီဂျစ်နိုင်ငံ၏ဗလီဝတ်ကျောင်းတော်အတွင်း၌ မင်ဗရ်ပေါ်မှ ဟောကြားနေသည်ကို ကြားခဲ့ရသည်။ အကြင်သူသည် သူမွန်သူမြတ်များအား ချစ်ခင်ခဲ့ပါက ထိုသူမွန်သူမြတ်တို့၏ကောင်းသောဝေစုသည် ၎င်းသူ

လည်း ရရှိမည်ဖြစ်ပေသည်။ ကြည့်လေကုန် အဆွ်ဟားဗ့ေကဟ်ဖ် ၏ခွေး သည် ၎င်းတို့အားချစ်ခင်ပြီး ၎င်းတို့နှင့်အတူတကွ နေထိုင်သည့်အတွက်ကြောင့် အလ္လာဟ်ရှင်မြတ်ကိုယ်တော်တိုင်က ကုရ်အာန်ကျမ်းတော်မြတ်တွင် ၎င်းခွေးနှင့်ပတ်သက်၍ အမိန့်ရှိတော်မူထားသည်။

وَكَلْبُهُمْ بَاسِطٌ ذِرَاعَيْهِ بِالْوَصِيدِ.

ကုရ်သုဗီ (ﷺ)သခင်က မိမိ၏သက်ဖ်စီးရ်တွင် အိဗ်နေ့အသ္ဂီယဟ် (ﷺ) ၏ ဆင့်ပြန်ချက်ကို တင်ပြပြီးနောက် အမိန့်ရှိသည်မှာ ခွေးတစ်ကောင်သည် သူတော်စင် သူတော်ကောင်းများ၏ထံပါး၌ နေထိုင်ခွင့်ရသည့်အတွက်ကြောင့် ထိုကဲ့သို့အဆင့်တန်းရရှိနိုင်တယ်ဆိုရင် ခင်ဗျားစဉ်းစားကြည့်ပါ။ အီမာန်ရှင်တို့သည် အလ္လာဟ့်အချစ်တော် ဝလီသူတော်စင်များနှင့် ချစ်ခင်ရင်းနှီးမှုထားပါက ထိုသူတို့၏အဆင့်အတန်းသည် အဘယ်မျှလောက် မြင့်မားသွားမည်နည်း? သို့သာမက ယင်းအကြောင်းအရာတွင် မိမိတို့၏အအ်မာလ် (လုပ်ဆောင်ချက်များ)၌ ပေါ့လျော့မှုများရှိသော်လည်း ကိုယ်တော်မြတ်ကို အပြည့်အဝချစ်ခင်မြတ်နိုးကြသော မွတ်စ်လင်မ်များအတွက် ဖြေသိမ့်မှုနှင့် သတင်းကောင်းပါဝင်လေသည်။

ဘိုခါရီကျမ်း၏ ဟဒီးဆ်တော်တစ်ရပ်၌ ဟဇရသ်အနက်စ်(ﷺ)သခင်က ဆင့်ပြန်လေသည်။ ကျွန်ုပ်နှင့် ကိုယ်တော်မြတ်ﷺသည် တစ်နေ့ ဗလီအပြင်သို့ ထွက်လာခဲ့ရာ ဗလီ၏တံခါးအဝ၌ လူတစ်ဦးနှင့်ဆုံတွေ့၍ ၎င်းသူက “ယာရစူလလ္လာဟ်(ﷺ)ကေယာမသ် ဘယ်တော့လာမည်နည်း?”ဟု မေးမြန်းလျှောက်ထားရာ ကိုယ်တော်မြတ်က အမိန့်ရှိတော်မူသည်မှာ အသင့်အနေဖြင့် ကေယာမသ်အတွက် ဘာတွေအဆင်သင့်ပြုလုပ်ပြီးပြီးလဲ? (ကေယာ

မသ်သည် အလျင်အမြန်လာနေပြီး ဖြစ်သည်။) ဤစကားကိုကြားပြီး ထိုပုဂ္ဂိုလ်သည် နှလုံးသားထဲ၌ အနည်းငယ်ရှက်ရွံ့သွားပြီး လျှောက်ထားသည်မှာ ကျွန်ုပ်အနေဖြင့် ကေယာမသ်အတွက် နမားဇ်၊ ရိုဇာဟ်နှင့် အလှူဒါနများ မြောက်မြားစွာ မစုဆောင်းရသေးပါ။ သို့သော် ကျွန်ုပ်သည် အလ္လာဟ်ရှင်မြတ်နှင့် ရစူလ်တမန်တော်မြတ်တို့ကို ချစ်ခင်မှုထားပါသည်။ ကိုယ်တော်မြတ်က အမိန့်ရှိတော်မူသည်မှာ အကယ်၍ ဒီလိုဆိုရင်ဖြင့် နားထောင်လေကုန်။ အသင်သည် ကေယာမသ်နေ့၌ မိမိချစ်ခင်နှစ်သက်သောသူတို့နှင့်အတူတကွ ရှိနေမည်ဖြစ်သည်။ ဟဇရသ်အနက်စ်(ﷺ)သခင် အမိန့်ရှိသည်မှာ ကျွန်ုပ်သည် ကိုယ်တော်မြတ်ထံတော်ပါးကနေ ဤမွန်မြတ်လှတဲ့ မိန့်ခွန်းချက်ကိုကြား၍ အလွန်ပင် ပျော်ရွှင်သွားလေသည်။ အစ္စလာမ်ကို လက်ခံပြီးနောက် ဤမျှလောက်အပျော်မျိုး ဘယ်သောအခါကမှ မပျော်ခဲ့ဖူးပါ။ ထို့နောက် ဟဇရသ်အနက်စ် (ﷺ) သခင်အမိန့်ရှိသည်မှာ "အလ်ဟမ်ဒုလိလ္လာဟ်" ကျွန်တော်သည် အလ္လာဟ်ရှင်မြတ်နှင့် ရစူလ်တန်တော်မြတ်တို့အား လည်းကောင်း၊ အဘူဘကရ်နှင့် အုမရ်သခင်တို့အားလည်းကောင်း ချစ်ခင်မှုထားပါသည်။ ထိုပုဂ္ဂိုလ်တို့နှင့်အတူတကွ နေထိုင်ခွင့်ရဖို့အတွက် မျှော်လင့်ပြီး ထိုပုဂ္ဂိုလ်တို့အား ချစ်ခင်မှုထားပါသည်။

(မအာရိဖွလ်ကုရ်အာန်ကျမ်း၊ အတွဲ ၅၊ စာ ၅၆၈)

~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~

"اليد العُلْيا خير من اليد السُّفْلى". **مسند أحمد ت شاكر (٥/ ٣٥٥).**

(၃၀) အပေါ် (ပေးကမ်းလှူဒါန်းသော)လက်သည် အောက် (ရယူသော) လက်ထက် သာပို၍ကောင်းပါသည်။

## ရှင်းလင်းချက်

အလိုသဘောမှာ လှူဒါန်းသုံးစွဲသောလက်သည် တောင်းခံသော လက်ထက် သာပိုမွန်မြတ်လေသည်။ နောက်ထပ် အလိုသဘောတစ်ခုက "اليد العُلْيا" ဆိုသည်မှာ ပေးကမ်းလှူဒါန်းသောလက်ကို ဆိုလို၍ "اليد العُلْيا" ဆိုသည်မှာ မလှူဒါန်း မသုံးစွဲသောလက်ကို ဆိုလိုလေသည်။ အဘယ်ကြောင့် ဆိုသော် ပေးကမ်းသည့်အခါ၌ လက်သည် ရှည်လျားသည်ဟု ထင်ရ၍ မပေးကမ်း မသုံးစွဲဘဲနေပါက လက်သည် ရှည်လျားမှုရှိသည်ဟု မထင်ရပေ။

( သတ်က်မီလုလ်အဒဗ်ကျမ်း)

يَا أَيُّهَا الَّذِينَ آمَنُوا أَنْفِقُوا مِمَّا رَزَقْنَاكُمْ مِنْ قَبْلِ أَنْ يَأْتِيَ يَوْمٌ لَا بَيْعٌ فِيهِ وَلَا خُلَّةٌ وَلَا شَفَاعَةٌ.

အို. အီမာန်ရှင်အပေါင်းတို့! ငါအရှင်မြတ်သည် အသင်တို့အား ပေးသနားတော်မူသော ဥစ္စာပစ္စည်းများအနက်မှ (တချို့တဝက်)ကို အသင်တို့ သည် "ကေယာမသ်" နေ့ မရောက်မီပင် လှူဒါန်းပေးကမ်းကြကုန်လော့။ ထိုနေ့တွင် မည်သည့်ရောင်းဝယ်မှုမျှရှိမည်မဟုတ်၊ မိတ်ဆွေဖြစ်မှုလည်းရှိမည် မဟုတ်၊ အသနားခံတောင်းပေးမှုလည်း ရှိမည်မဟုတ်ပေ။

(စူရဟ်အလ်ဘကရဟ်၊ အာယသ် ၂၅၄ )

အလ္လာဟ်ရှင်မြတ်က လှူဒါန်းသုံးစွဲပေးကမ်းကြသော ပုဂ္ဂိုလ်တို့နှင့် ပတ်သတ်၍ အမိန့်ရှိသည်မှာ -

الَّذِينَ يُنْفِقُونَ أَمْوَالَهُمْ بِاللَّيْلِ وَالنَّهَارِ سِرًّا وَعَلَانِيَةً فَلَهُمْ أَجْرُهُمْ عِنْدَ رَبِّهِمْ وَلَا خَوْفٌ عَلَيْهِمْ وَلَا هُمْ يَحْزَنُونَ.

အကြင်သူတို့သည် မိမိတို့၏ဥစ္စာပစ္စည်းများကို နေ့ညမရွေး(အခါခပ်သိမ်း) လျှို့ဝှက်စွာဖြင့် (တစ်မျိုး)ထင်ရှားစွာဖြင့် (တစ်ဖုံ) လှူဒါန်းသုံးစွဲကြကုန်၏။ သို့ဖြစ်လျှင် ယင်းသူတို့၏ကုသိုလ်အကျိုးသည် ယင်းသူတို့အား မွေးမြူတော်မူသော အရှင်မြတ်၏အထံတော်၌ (အသင့်)ရှိပေသည်။ ထို့ပြင် ယင်းသူတို့အပေါ်ဝယ် မည်သည့်စိုးရိမ်ကြောင့်ကြခြင်းလည်းမရှိ၊ ယင်းသူတို့သည် ဝမ်းနည်းပူဆွေးကြမည်လည်း မဟုတ်ပေ။

( စူရဟ်အလ်ဗကရဟ်၊ အာယသ် ၂၇၄)

ဟဒီးဆ်တော်တစ်ရပ်၌ ကိုယ်တော်မြတ် (ﷺ)က အမိန့်ရှိတော်မူသည်မှာ အလ္လာဟ်ရှင်မြတ်၏ အရိပ်အာဝါသမှအပ အခြားအရိပ်အာဝါသ အလျှင်းရှိမည်မဟုတ်သော "ကေယာမသ်"နေ့တွင် ထိုအရှင်သည် (၇)ဦးသော သူတို့အား မိမိ၏အရိပ်အာဝါသအောက်တွင် ခိုလှုံခွင့်ပေးတော်မူမည်။ ထို(၇)ဦးသောသူတို့အနက် တစ်ဦးမှာအကြင်သူပင် ဖြစ်၏။ ထိုသူသည် ညာလက်ကလှူသည်ကိုပင် ဘယ်လက်ကမသိအောင် လျှို့ဝှက်စွာ လှူဒါန်းပေးကမ်း၏။ (ကုရ်အာန်ကျမ်းမြတ် မြန်မာဘာသာပြန်၊ အတွဲ ၁၊ စာ ၂၄၉)

ဟဇရသ် အဘူဟုရိုင်ရဟ် (رضي الله عنه) သခင်က ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် (ﷺ) အမိန့်ရှိတော်မူသည်မှာ မိုးကောင်းကင်၌ "ဖရစ်ရှ်သဟ်"(၂)ပါးအား "ဒိုအာ" တောင်းခံနေရန်အတွက်သာ အမိန့်ပေးစေခိုင်းထားလေသည်။ တစ်ဦး

က ဒိုအာတောင်းခံသည်မှာ အို..အလ္လာဟ်ရှင်မြတ်! လှူဒါန်း ပေးကမ်းသူများကို ၎င်းတို့၏လှူဒါန်းမှု၏အစား ချီးမြှင့်တော်မူပါ။ ကျန်ဖရစ်ရှိသဟ်တစ်ပါး က ဒိုအာတောင်းခံသည်မှာ အို..အလ္လာဟ်ရှင်မြတ်! ကပ်စေးနဲတွန့်တိုသူတို့၏ ပစ္စည်းဥစ္စာများကို ပျက်စီးစေတော်မူပါဟု တောင်းခံမှုပြုလေသည်။

(သန်ဗီဟုလ် ဂါဖိလီးန်ကျမ်း၊ စာ ၂၂၇ )

~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~

لَا تَكْذِبُوا عَلَيَّ فَإِنَّهُ مَنْ كَذَبَ عَلَيَّ فَلْيَلِجْ النَّارَ. **صحيح البخاري- طوق النجاة (١/ ٣٣).**

(၃၁) အသင်တို့ ငါကိုယ်တော်မြတ်အားပတ်သက်ဆက်နွယ်ပြီး (ဟဒီဆ်းတော်များအား လုပ်ကြံဖန်တီး၍) မုသားမပြောဆိုကြကုန်နှင့်။ အဘယ်ကြောင့်ဆိုသော် အကြင်သူသည် ငါကိုယ်တော်မြတ်အား ပတ်သက်ဆက်နွယ်ပြီး ဟဒီးဆ်တော်များအား လုပ်ကြံဖန်တီးမုသားပြောဆိုပါက ထိုသူသည် ဂျဟန္နမ်(ငရဲဘုံ)သို့ ဝင်ရောက်ရမည် ဖြစ်သည်။

## ရှင်းလင်းချက်

ဆိုလိုသည်မှာ အကြင်သူသည် ဟဒီးဆ်တော်တစ်ခုအား မုသားလုပ်ကြံဖန်တီး ၍ ကိုယ်တော်မြတ် (ﷺ)ဘက်သို့ ပတ်သက်ဆက်နွယ်ပါက ထိုသူ၏နေရာဌာနသည် ဂျဟန္နမ် ဖြစ်လေသည်။

( သတ်က်မီလုလ်အဒဗ်ကျမ်း )

~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~

من تعلم علما لغير الله أو أراد به غير الله فليتبوأ مقعده من النار. سنن الترمذي (٥/ ١٩).

(၃၂) အကြင်သူသည် အလ္လာဟ်ရှင်မြတ်၏ ကျေနပ်နှစ်သက်မှုအပြင် တခြားအရာအတွက် ပညာသင်ယူဆည်းပူးခဲ့မည် (သို့မဟုတ်) အလ္လာဟ်ရှင်မြတ်၏ကျေနပ်နှစ်သက်မှုအပြင် တခြားတစ်စုံတစ်ရာကိုရည်ရွယ်ပြီး သာသနာ့ပညာသင်ယူဆည်းပူးခဲ့ပါက ထိုသူသည် မိမိ၏ နေထိုင်ရမည့်ဌာနကို ဂျဟန္နမ် (ငရဲဘုံ)ဟု သတ်မှတ်ရမည်။

**ရှင်းလင်းချက်**

ဟဒီးဆ်တော်၏ အလိုသဘောမှာ အကြင်သူသည် အလ္လာဟ်ရှင်မြတ် ကျေနပ်နှစ်သက်ရန်အတွက်မဟုတ်ဘဲ တခြားသဘောလောကီရေးရာရလိုမှု ရည်ရွယ်ချက်အတွက် သာသနာ့ပညာကို သင်ယူပြီး ထိုသာသနာ့ပညာဖြင့် လောကီရေးရာရှာဖွေပါမှု ၎င်းပုဂ္ဂိုလ်အတွက် ဤခြိမ်းခြောက်သတိပေးမှုသည် ပြင်းထန်ပေသည်။ အကြောင်းကတော့ ၎င်း၏နေရာထိုင်ခင်းသည် ဂျဟန္နမ် (ငရဲဘုံ)ဖြစ်ပေသည်။

သို့ဖြစ်ပေရာ သာသနာ့ပညာသင်ယူဆည်းပူးမည့်ပုဂ္ဂိုလ်များအတွက် ဦးစွာပထမ အရေးကြီးဆုံးသောအချက်မှာ "အိခ်လာဆ့်နိယသ်"ခေါ် ရည်ရွယ်ချက်မှန်ကန်ဖို့ အရေးကြီးပေသည်။ သာသနာ့ပညာ ဆည်းပူးရာ၌ မကောင်းသောရည်ရွယ်ချက်တစ်ခုခု (သို့မဟုတ်) လောကီရေးရည်စူးချက် တစ်ခုခုမျှ မထားသင့်ပေ။ စိတ်စေတနာဖြူစင်စွာဖြင့် အလ္လာမ်ရှင်မြတ် ကျေနပ်နှစ်သက်ရန်အတွက်သော်လည်းကောင်း၊ မိမိ၏ "အာခေရသ်"

တမလွန်အရေး မှန်ကန်ဖို့အတွက်သော်လည်းကောင်း ပညာရှာဖွေဆည်းပူး သင့်ပေသည်။

ကိုယ်တော်မြတ် (ﷺ)အမိန့်ရှိတော်မူသည်မှာ လုပ်ရပ်တိုင်းသည် ရည်ရွယ်ချက်အပေါ်၌သာ မူတည်ပေသည်။ လူပုဂ္ဂိုလ်တိုင်းသည် မိမိတို့ရည်ရွယ်ချက်ဖြင့် သီးသန့်အလ္လာဟ်ရှင်မြတ် ကျေနပ်နှစ်သက်ရန် အလုပ်တစ်ခုခု လုပ်ဆောင်ခဲ့ပါက ထိုလုပ်ရပ်အတွက် အကျိုးစဝါးဗ်ရရှိမည် ဖြစ်သည်။ ထို့နောက် အကယ်၍ မကောင်းသောရည်ရွယ်ချက်တစ်ခုခုဖြင့် အလုပ်တစ်ခုကို လုပ်ဆောင်ခဲ့ပါက ထိုလုပ်ရပ်အတွက် မြင့်မြတ်တော်မူသော အလ္လာဟ်ရှင်မြတ်၏ထံတော်ပါးတွင် မည်သည့်အကျိုးစဝါးဗ်မှ ရရှိမည်မဟုတ်ပေ။ ဟဒီးဆ်ကုဒ္ဒူစီတစ်ပုဒ်တွင် အလ္လာဟ်ရှင်မြတ်က အမိန့်ရှိတော်မူသည်မှာ အကြင်သူသည် မိမိ၏အမလ်လုပ်ရပ်တစ်ခု၌ ငါအရှင်မြတ်နှင့်အတူ တခြားသူတစ်ဦးအား (ပြစားရန်ရည်ရွယ်ချက်ဖြင့်)ပါဝင်စေခဲ့ပါက ငါအရှင်မြတ်သည် ၎င်းသူကိုရော ၎င်းသူ၏လုပ်ဆောင်ချက်အမလ်ကိုပါ လက်ခံတော်မူမည်မဟုတ်ပေ။ ငါအရှင်မြတ်သည် ငါအရှင်မြတ်အတွက် သီးသန့်ရည်ရွယ်ချက်ဖြင့် လုပ်ဆောင်သော အမလ်လုပ်ဆောင်ချက်ကိုသာ လက်ခံတော်မူလေသည်။

ဟဒီးဆ်တော်တစ်ရပ်၌ လာရှိသည်မှာ - ဂျဟန္နမ် (ငရဲဘုံ)၌ လျှိုမြောင်တစ်ခုရှိလေသည်။ နေ့စဉ်နေ့တိုင်း ဂျဟန္နမ် ငရဲဘုံ ကိုယ်တိုင်ကပင် ထိုလျှိုမြောင်ကနေ လွတ်မြောက်မှုရဖို့အတွက် အကြိမ်ပေါင်း(၄၀၀) အလ္လာဟ်အရှင်မြတ်ထံတော်ပါးမှာ ခိုလှုံမှုတောင်းခံလေ သည်။ ထိုဂျဟန္နမ်ရဲ့

လျှို့ဝှက်မှု သို့မဟုတ် ထင်ရှားစွာ ပြစားမှုဖြင့် ကုရ်အာန်ကျမ်းတော် မြတ်ကို ရွတ်ဖတ်ခဲ့ကြသော သူများအတွက် ဖြစ်ပေသည်။

ဟဒီးဆ်တော်တစ်ရပ်၌ ကိုယ်တော်မြတ်(ﷺ) မိန့်ကြားတော်မူသည်မှာ ငါကိုယ်တော်မြတ်သည် အသင်တို့နှင့်ပတ်သက်၍ အားလုံးထက်သာပို၍ စိုးရိမ်မကင်းဖြစ်မိသည်အရာမှာ သေးငယ်သောရှစ်ရ်ကဲ (တုပယှဉ်ပြိုင် ကိုးကွယ်မှု ဖြစ်ပေသည်။ ဆွဟာဗဟ်(ﷺ)များက လျှောက်ထားကြသည်မှာ သေးငယ်သော "ရှစ်ရ်ကဲ" ဆိုသည်မှာ အဘယ်အရာပါနည်း? ကိုယ်တော်မြတ် (ﷺ)က အမိန့်ရှိတော်မူသည်မှာ " ပြစားမှု "ပင် ဖြစ်သည်။

ဟဒီးဆ်တော်တစ်ရပ်၌ ဤသို့လာရှိပြန်သည်။ အလ္လာဟ်ရှင်မြတ်သည် လူသားတို့အား ၎င်းတို့၏အအ်မာလ် (လုပ်ဆောင်ချက်များ)၏ အစားပေး တော်မူမည့်နေ့၌ ပြစားမှုသက်သက်ဖြင့် အမလ်လုပ်ဆောင်ခဲ့ကြသော "ရေယာ" ပြစားသူတို့အား ဤကဲ့သို့ အမိန့်ရှိတော်မူမည်။ အကြင်သူများကို ပြစားရန်အတွက် အသင်တို့သည် အမလ်လုပ်ခဲ့ကြသည်။ သို့ဖြစ်လေရာ ထိုသူများထံတွင် အသင်တို့၏လုပ်ဆောင်ချက်များရဲ့ အကျိုးအစား ရှိမရှိ ကြည့်ရှုကြလေကုန်။

(မစ်ရ်ှကားသ်ကျမ်း)

အဘူဒါဝူးဒ်ကျမ်း၏ ဆင့်ပြန်ချက်တစ်ရပ်၌ လာရှိသည်မှာ- ကိုယ်တော်မြတ်(ﷺ)က အမိန့်ရှိတော်မူသည်မှာ သာသနာ့ပညာအား ဤ အချက် (၃)ချက်ကြောင့် မသင်ယူလေနှင့်။

(၁) သာသနာ့ပညာရှင်များအား ဂုဏ်တုဂုဏ်ပြိုင်လုပ်၍ ပြိုင်ဆိုင်ရန်။

(၂) ဂျာဟိလ်(ပညာမဲ့)တို့နှင့် အငြင်းအခုံလုပ်ရန်။

(၃) အစီအစဉ်များ၊ အခမ်းအနားထိုင်ဝိုင်းများတွင်နေရာမြင့်မြင့်တွင်ထိုင်ရရန်။

ထိုသူ့အတွက် ဂျဟန္နမ်မီးမှ ဂျဟန္နမ်မီး လောင်မြိုက်ခံရမည် ဖြစ်လေသည်။ ဒီအတွက်ကြောင့် သာသနာ့ပညာသင်ယူဆည်းပူးမည့်သူများ၏ ရည်ရွယ်ချက်သည် အလ္လာဟ်ရှင်မြတ် ကျေနပ်နှစ်သက်ရန်အတွက်သာလျှင် ဖြစ်သင့်ပေသည်။

(သတ်က်မီလုလ်အဒဗ်ကျမ်း)



من خرج في طلب العلم فهو في سبيل الله حتى يرجع. **جامع الأحاديث** (٢٠/ ٢٨٧).

(၃၃) အကြင်သူသည် သာသနာ့ပညာသင်ယူဆည်းပူးရန်အတွက် ထွက်ခွာခဲ့ပါက ထိုသူသည် မိမိအိမ်ပြန်မရောက်မချင်း အလ္လာဟ်ရှင်မြတ်၏လမ်းတော်၌ ဖြစ်ပေသည်။

## ရှင်းလင်းချက်

အကြင်သူသည် သာသနာ့ပညာကို ဆည်းပူးရန်အတွက် ထွက်ခွာခဲ့ပါက ထိုသူပြန်မရောက်ချင်း အလ္လာဟ်ရှင်မြတ်၏လမ်းတော်၌ ဂျေဟားဒ် (ကာဖိရ်များနှင့် စစ်မက်တိုက်ခိုက်ခြင်း)၏အကျိုးအစား ရရှိမည်ဖြစ်ပေသည်။

အေလင်မ်သာသနာ့ပညာ သင်ယူဆည်းပူးခြင်း၏ ဖဇီလသ် (ထူးမြတ်မှု)နှင့် ပတ်သက်၍ မြောက်မြားစွာသောအကြောင်းအရာများ လာရှိထားပေသည်။ ဟဇရသ်ကဆီးရ်ဗင်န်ကိုင်းစ် (ﷺ)က တင်ပြလေသည်။ “ဒမက်ရှ်ကဲ” မြို့၌ ပုဂ္ဂိုလ်တစ်ဦးသည် ဟဇရသ်အဘူဒရ်ဒါးအ် (ﷺ)သခင်၏ ထိုင်ဝိုင်း၌ လာရောက်၍ လျှောက်ထားသည်မှာ ကျွန်ုပ်သည် မဒီနဟ်မြို့မှ လာရောက်ခြင်းဖြစ်ပြီး ဟဒီးဆ်တော်တစ်ပုဒ်ကို နားထောင်သင်ယူရန်အတွက် ဖြစ်ပါသည်။ ဟဇရသ်အဘူဒရ်ဒါးအ်(ﷺ)သခင်က မေးမြန်းသည်မှာ သီးသန့်ဟဒီးဆ်သင်ယူမည်ဆိုသည့် ရည်ရွယ်ချက်ဖြင့် လာခြင်းလော (သို့မဟုတ်) တခြားအကြောင်းကိစ္စများအတွက် လာခြင်းလော? ထိုပုဂ္ဂိုလ်က ဖြေကြားသည်မှာ မဟုတ်ပါ၊ တခြားမည်သည့်အကြောင်းမှ မရှိပါ။ ဟဒီးဆ်သင်ယူရန် ရည်ရွယ်ချက်သက်သက်ဖြင့် လာခြင်းသာဖြစ်ပါသည်။ ထိုအခါ ဟဇရသ်အဘူဒရ်ဒါးအ်

(ﷺ)သခင်က ပျော်ရွှင်ဝမ်းမြောက်စွာဖြင့် အမိန့်ရှိသည်မှာ ကောင်းမြတ်သော လာခြင်းပင်ဖြစ်သည်။ မင်္ဂလာရှိသော လာရောက်ခြင်းပင် ဖြစ်သည်။ ကိုယ်တော်မြတ်(ﷺ)က အမိန့်ရှိတော်မူသည်မှာ အကြင်သူသည် သီးသန့် သာသနာ့ပညာသင်ယူဆည်းပူးရန်အတွက် ခရီးထွက်ခဲ့ပါက ထိုသူ့အတွက် ဂျန္နသ်၏လမ်းကို လွယ်ကူအောင် ပြုပေးတော်မူမည်။ ဤကဲ့သို့ သွေ့သည် မျိုးကို ဂုဏ်ပြုရန်နှင့် ကြိုဆိုရန်အတွက်ကို ဖရစ်ရှ်သဟ်များက မိမိတို့၏ အတောင်ပံများကို ခင်းထားပေးကြမည်ဖြစ်သည် ထို့နောက် မိုးနှင့်မြေမှာ ရှိသမျှ အဖန်ဆင်းခံအားလုံးက ထိုသူအား ဒိုအာ ဆုမွန်တောင်းခံပေးကြသည်။ ယုတ်စွအဆုံး ရေထဲရှိ ငါးသတ္တဝါများပင် ၎င်းသူအတွက် ဒိုအာဆုမွန် တောင်းခံပေးကြလေသည်။ ဟဒီးဆ်တော်တစ်ပုဒ်၏ အလိုသဘော၌ အာလင်မ်(သာသနာ့ပညာရှင်)သည် အာဗစ်ဒ်(တရားအား ထုတ်သောသူများ) ထက် မွန်မြတ်မှု၌ ပမာဆိုရသော် လပြည့်ည၌သာသော လမင်းသည် ကြယ်တာယာအားလုံးထက် သာပိုလင်းလက်သကဲ့သို့ ဖြစ်ပေသည်။ အာလင်မ် သာသနာ့ပညာရှင်များသည် နဗီတမန်တော်အပေါင်း၏ အမွေစား အမွေခံများ ဖြစ်ကြလေသည်။ နဗီတမန်တော်အပေါင်း၏အမွေသည် ရွှေငွေများ မဟုတ်ပေ။ အေလင်မ်(ပညာ)သာလျှင် ဖြစ်ပေသည်။ အဗ္ဗဒွလ္လာဟ် ဗင်န်မက်စ်အူးဒ်(ﷺ)သခင်က အမိန့်ရှိသည်။ လူ(၂)ဦး၏ လောဘ သည် ပြည့်ဝလိမ့်မည် မဟုတ်ပေ။

(၁) ပညာကို ရှာဖွေသောသူ

(၂) လောက၏ပစ္စည်းဥစ္စာများကို ရှာဖွေသောသူ။

သို့သော် ထိုပုဂ္ဂိုလ်(၂)ဦးကြား၌ ခြားနားမှုသည် မိုးနှင့်မြေလောက် ကွာခြားသည်။ ပထမတစ်ဦးမှာ အလ္လာဟ်ရှင်မြတ်၏ ကျေနပ် နှစ်သက်မှု ရရန်အတွက် သာသနာ့ပညာကို ရှာဖွေဆည်းပူးရင်း တိုးတက်မှု အပေါင်းနှင့် အဆင့်တန်းပေါင်းများစွာကို ရရှိခံစားရပြီး ဒုတိယတစ်ဦးမှာ မိမိ စိတ်ဆန္ဒများနှင့် လောကကိုချစ်ခင်စွဲလမ်းမှုထဲ၌ နစ်မွန်းပြီး သေးသိမ်မှု၏ တွင်းထဲသို့ ကျရောက်သွားလေသည်။ ပထမပုဂ္ဂိုလ်က အဆင့်တန်းမြင့်၍ ဒုတိယပုဂ္ဂိုလ်မှာ အဆင်းတန်းနိမ့်ရလေသည်။ ပထမပုဂ္ဂိုလ်က မွန်မြတ်သူ ဖြစ်၍ ဒုတိယပုဂ္ဂိုလ်မှာ သေးသိမ်သူဖြစ်ရသည်။ ပထမပုဂ္ဂိုလ်က ချီးမွမ်းခံ ထိုက်သူ ဖြစ်၍ ဒုတိယပုဂ္ဂိုလ်မှာ ကဲ့ရဲ့ပြစ်တင်ခြင်းခံရသူ ဖြစ်ရသည်။

(သန်ဗီဟုလ်ဂါဖိလီးန်၊ စာ ၃၁၈ )

ဟဇရသ် အနက်စ်ဗင်န်မာလစ်က် (ﷺ) သခင်က ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် (ﷺ) အမိန့်ရှိတော်မူသည်မှာ အကယ်၍ လောကတွင် အလ္လာဟ်ရှင်မြတ်က ဂျဟန္နမ်ငရဲဘုံ၏ ပြစ်ဒဏ်မှ လွတ်ငြိမ်းချမ်းသာခွင့် ပေး ထားသောသူများကို တွေ့မြင်လိုပါက သာသနာ့ပညာသင်ယူဆည်းပူးနေသူ များကို ကြည့်ရှုကြလေကုန်။ အကြင်သူသည် သာသနာ့ပညာသင်ယူဆည်းပူး ရန် ရည်ရွယ်ချက်သက်သက်ဖြင့် သာသနာ့ပညာရှင်တစ်ပါးပါး၏ထံပါးသို့ သွားရောက်ပါက စာလုံးတစ်လုံးတိုင်း ခြေလှမ်းတစ်လှမ်းတိုင်းအတွက် တစ်နှစ် အေဗာဒသ်လုပ်ခြင်း၏အကျိုးစဝါးဗ် ရရှိမည်ဖြစ်သည်။ ၎င်းနောက် ထိုသူ့အတွက် ဂျန္နသ် (သုခဘုံ)၌ မြို့တစ်မြို့ ပြုလုပ်ပေးထားမည်ဖြစ်သည်။ ၎င်းသူလျှောက်လှမ်းခဲ့သမျှ ခြေလှမ်းတိုင်းနှင့် ထိတွေ့ခဲ့သည့် မြေကြီးက လည်း ၎င်းသူအဖို့ “အစ်သစ်ဂ်ဖားရ်” (လွတ်ငြိမ်းချမ်းသာခွင့်) တောင်းခံပေး

ကြသည်။ မနက်ညနေ၌ရှိကြသော ဖရစ်ရှ်သဟ်များက ၎င်းသူ “မဂ်ဖိရသ်” လွတ်ငြိမ်းခွင့်ရကြောင်း ဤသို့ထုတ်ဖော် ပြောဆိုကြမည်။

هؤلاء عتقاء الله من النار.

“ဤပုဂ္ဂိုလ်တို့သည် ဂျဟန္နမ်ငရဲဘုံကနေ အလ္လာဟ်ရှင်မြတ်က လွတ်ငြိမ်းချမ်းသာခွင့်ပေးထားသောသူများ ဖြစ်ကြသည် ။ ”

ဟဇရသ်အဘူဒရ်ဒါးအ် (ﷺ)သခင်က အမိန့်ရှိသည်မှာ ကျွန်ုပ်သည် တစ်ညတာလုံး အေဗာဒသ်လုပ်ခြင်းထက် သာသနာနှင့် ပတ်သက်တဲ့ မတ်စ်အလဟ် တစ်ခုကို သင်ယူခြင်းအား သာပိုနှစ်သက်လေသည်။

( သန်ဗီဟုလ်ဂါဖိလီးန်ကျမ်း၊ စာ ၃၁၉ )

ဟဇရသ်အဘူဟုရိုင်ရဟ် (ﷺ)သခင်က ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ( )က အမိန့်ရှိတော်မူသည်မှာ လူသားသည် သေဆုံးကွယ်လွန်သွားပါက ၎င်းသူ၏အမလ်၏ စဝါးဗ်ကုသိုလ်များသည်လည်း ရပ်တန့်သွားပေသည်။ သို့သော် (၃)ခုသောအရာ၏ စဝါးဗ်ကုသိုလ်သာ သေဆုံးပြီးနောက်တွင် လည်း ရရှိခံစားရမည် ဖြစ်သည်။

(၁) ဆွဒ်ကဟ်ဂျာရီယဟ်

(၂) လူတို့အားအကျိုးပြုခဲ့သော အိလင်မ်ပညာ

(၃) မွန်မြတ်သောသားသမီးများ (၎င်းတို့သည် မိမိအတွက် သေဆုံးပြီးနောက်တွင်လည်း ဒိုအာတောင်းခံပေးကြသည့်သားသမီး) တို့ ဖြစ်ကြသည်။

(မဇ္ဇာဟော့ရေ့ဟတ်က်၊ တွဲ ၁၊ စာ ၂၇၅)

~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~

بين الكفر والإيمان ترك الصلاة. **سنن الترمذي** (**٥/ ١٣**).
(၃၄) ကွဖ်ရ်နှင့် အီမာန်၏ကြား၌ ခြားနားမှုသည် နမားဇ်ဝတ်ပြုမှုအား စွန့်လွှတ်ခြင်းပင် ဖြစ်သည်။

## ရှင်းလင်းချက်

အလိုသဘောမှာ နမားဇ်သည် အီမာန်နှင့် ကွဖ်ရ်ကြား၌ ခြားနားပေးလေသည်။ ထို့ကြောင့် တမင်သိလျက်နှင့် အကြောင်းမဲ့ နမာဇ်ကို စွန့်လွှတ်ပါက ထိုသူသည် ကွဖ်ရ်၏အနီးအနားသို့ ရောက်ရှိသွားလေသည်။ နမားဇ်သည် အစ္စလာမ်သာသနာတော်၌ အလွန်အရေးကြီးသော အေဗာဒသ် တစ်ခုဖြစ်လေသည်။ အဘယ့်ကြောင့်ဆိုသော် အစ္စလာမ်၏ ဖရ်ဇ်တာဝန်များဖြစ် ကြသော ဟဂ်ျ၊ ရိုဇဟ်နှင့် ဇကားသ်တို့သည် ကမ္ဘာမြေပထဝီ၌သာလျှင် ဖရ်ဇ်အဖြစ် သတ်မှတ်ထားခြင်းခံရသည်။ နမားဇ်ကို ဖရဇ်အဖြစ် သတ်မှတ်ပေးခြင်းသည် မိုးကောင်းကင်၌ အလ္လာဟ်ရှင်မြတ်၏ အရှေ့တော်အပေါ်ဝယ် ဖြစ်သည်။ တစ်လောကလုံးကို ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်ရှင်မြတ်၏ ရှေ့တော်မြတ်မှောက်ဝယ် ဖရဇ်အဖြစ် သတ်မှတ်ပေးခံရခြင်းဖြစ်သည်။ ဒီအတွက်ကြောင့် နမားဇ်ကို တခြားသော အေဗာဒသ်များထက် ပို၍အလေးပေးထားခြင်းဖြစ်လေသည်။ ကုရ်အာန်နှင့် ဟဒီးဆ်တော်များ၌လည်း နမားဇ်နှင့်ပတ်သက်၍ မြောက်များစွာသော အမိန့်ပညတ်ချက်များ လာရှိထားပေသည်။ ကျမ်းတော်မြတ် ကုရ်အာန်၌ အလ္လာဟ်ရှင်မြတ်က အမိန့်ရှိတော်မူသည်မှာ -

وَأْمُرْ أَهْلَكَ بِالصَّلَاةِ وَاصْطَبِرْ عَلَيْهَا لَا نَسْأَلُكَ رِزْقًا نَحْنُ نَرْزُقُكَ وَالْعَاقِبَةُ لِلتَّقْوَى.

**အဓိပ္ပါယ်**

ၚင်းပြင်အသင်သည် မိမိအိမ်သူအိမ်သား တပည့်သာဝကတို့အား ဆွလားသ်ဝတ်ပြုကြရန် အမိန့်ပေးလျှက် ရှိပါလေ။ ထို့ပြင် အသင်ကိုယ်တိုင်လည်း ယင်းဆွလာသ်ဝတ်ပြုမှုအပေါ် မယိမ်းမယိုင် တည်ကြည်မြဲမြံစွာရှိပါလေ။ ငါအရှင်မြတ်သည် အသင့်ထံတွင် စားနပ်ရိက္ခာကို တောင်းခံတော်မူမည်မဟုတ်ပေ။ (အမှန်မှာ) ငါအရှင်မြတ်သာလျှင် အသင့်အား ရိက္ခာကို ချီးမြှင့်တော်မူလေသည်။ စင်စစ်နောက်ဆုံးအကျိုးဆက်သည် သူတော်စင်တို့အဖို့သာဖြစ်သည်။

(စူရဟ်သွာဟာ၊ အာယသ် ၁၃၂ )

မိမိကိုယ်တိုင်လည်း အမြဲတစေ ဆွလာသ်ဝတ်ပြုရမည်။ မိမိ၏အိမ်သူအိမ်သားအပေါင်းအဖော်များနှင့် နောက်လိုက်ငယ်သားအားလုံးတို့အားလည်း ဆွလာသ်ဝတ်ပြုရန် အမြဲတစေညွှန်ကြားလျက်ရှိရပေမည်။ တမန်တော်မြတ်က “ကလေးခုနှစ်နှစ်အရွယ်ရောက်လျှင် (အလေ့အကျင့်ဖြစ်စေရန်အလို့ငှာ) ဆွလာသ်ဝတ်ပြုရန် ညွှန်ကြားကြ၊ ဆယ်နှစ်အရွယ်သို့ရောက်လျှင် ရိုက်ပုတ်၍ ဆွလာသ်ဝတ်ပြုစေကြ ” ဟု မိန့်ကြားတော်မူခဲ့လေသည်။ တမန်တော်မြတ်သည် မိမိအိမ်တော်သူအိမ်တော်သားများ၌ ဒုက္ခတစ်စုံတစ်ခု ဖြစ်ပေါ်လျှင် အိမ်တော်သူအိမ်တော်သားတို့အား ဆွလာသ်ဝတ်ပြုရန် အမိန့်ပေးတော်မူ၍ ဤအာယသ်တော်ကို ရွတ်ဖတ်သရဇ္ဈာယ်တော်မူလေ့ ရှိခဲ့သည်။ လူ့လောကတွင် ငွေရှင်ကြေးရှင်၊ မြေရှင်၊ အလုပ်ရှင် စသည့် ရှင်ကြီးရှင်ငယ်

များသည် လက်အောက်ငယ်သားအလုပ်သမားတို့အား ခိုင်းစေ၍ မိမိတို့၏ ဝမ်းရေးကို ဖန်းတီးကြသည်။ ကမ္ဘာ့အဝန်းကို စိုးပိုင်တော်မူသော အလ္လာဟ်ရှင် မြတ်ကား ဤသို့မဟုတ်၊ မိမိကိုယ်တော်တိုင် စားနပ်ရိက္ခာပေးတော်မူသည်။ စားနပ်ရိက္ခာများကို လိုလေသေးသည်မရှိ၊ အသင့်စီစဉ်ပေးထားတော်မူသည်။ သို့ဖြစ်လေရာ လူသားတို့သည် ထိုသို့သော ကျေးဇူးတော်ရှင်အား ကျေးဇူး သိတတ်သောအားဖြင့် ခဝပ်ကိုးကွယ်ကြရပေမည်သာ ဖြစ်ပေသည်။ "သက္ကဝါ"တရား အမြဲတစေစောင့်စည်းကြရပေမည်။ အဘယ့်ကြောင့်ဆိုသော် နောက်ဆုံးအကျိုးဆက် အောင်မြင်မှုသည် သက္ကဝါတရား စောင့်စည်း ကြသော သူမွန်သူမြတ်တို့အဖို့သာ ဖြစ်သည်။ ဤတွင်သိထားအပ်သည်မှာ အလ္လာဟ်အရှင်မြတ်အား လူသားတို့က ခဝပ်ကိုးကွယ်ခြင်းဖြင့် ထိုအရှင်မြတ် ၌ မည်သို့မျှအကျိုးမရှိ၊ လူသားတို့၌သာ အကျိုးရှိပေသည်။ အလ္လာဟ်ရှင်မြတ် အား ကြောက်ရွံ့ရိုသေခန့်ညား၍ ဆွလာသ်ဝတ်ပြုသူအား ထိုအရှင်မြတ်သည် ထိုသူ မမျှော်မှန်းမိသောနေရာမှပင် စားနပ်ရိက္ခာများကို ချီးမြှင့်တော်မူလေ့ ရှိသည်။

(ကုရ်အာန်ကျမ်းမြတ် မြန်မာဘာသာပြန်၊ တွဲ ၂၊ စာ ၁၇၃၆ )

နမားဇ်ဝတ်ပြုရာ၌ အကျိုးအမြတ်မြောက်များစွာ ရှိပေသည်။ အကြင် သူတစ်ဦးသည် နမားဇ်ဝတ်ပြုရန်အတွက် မတ်တတ်ရပ်၍ နိယသ်ချည်ပြီး နောက် သက်ဗီးရေ့သဟ်ရီမဟ် (اَللّٰهُ أَكْبَرُ)ဟု ရွတ်ဆိုပြီးတာနှင့်တစ်ပြိုင်တည်း ၎င်း၏အပြစ် ဂိုနာဟ်ဟူသရွေ့တို့သည်ခွင့်လွှတ်ပလပ်ပေးခြင်းခံရပေသည်။ ပမာဆိုသော် ထိုပုဂ္ဂိုလ်သည် ယနေ့ပဲ မိခင်ဝမ်းမှ ကျွတ်သော ကလေးကဲ့သို့ အပြစ်ဂိုနာဟ်ဟူသရွေ့ကနေ သန့်ပြန့်စင်ကြယ်သွားပေသည်။ နမားဇ်ဝတ်ပြု

သောသူသည် နိယသ်ချည်ပြီးနောက် "စနာ"ကို အဆုံးထိဆိုပြီး "အအူဇို့ ဗိလ္လာဟ်" ရွတ်ဆိုလိုက်ပါက ထိုနမာဇီ၏ ဦးခေါင်းမှ ဆံပင်မွှေးများနှင့်အညီ ကောင်းမှုတစ်ခုစီ ရေးမှတ်ခံရမည်ဖြစ်သည်။ စူရဟ်ဖာသိဟာဟ် ရွတ်ဖတ် လိုက်ပါက ဟဂ်ျနှင့် အွမ္မရဟ်တစ်ကြိမ်လုပ်ခြင်း၏ စဝါးဗ်ကုသိုလ်ရရှိမည် ဖြစ်သည်။ ရုကူအ်၌ "သတ်စ်ဗီးဟ်" ရွတ်ဖတ်လိုက်ပါက ၎င်းသူအဖို့ ကောင်းကင်ကျ ကျမ်းစာအားလုံး ဖတ်ရွတ်သည့် စဝါးဗ်ကုသိုလ် ရရှိမည် ဖြစ်သည်။ "ကောင်မဟ်"၌ "سَمِعَ اللّٰهُ لِمَنْ حَمِدَه" ဟု ရွတ်ဆိုပါက အလ္လာဟ် အရှင်မြတ်သည် ၎င်းသူအား ရဟ်မသ်ကရုဏာတော်၏ အရှုဖြင့် ရှုတော်မူ လေသည်။ စဂ်ျဒဟ်ဦးချပါက ဂျင်န်နှင့် လူသားအားလုံး၏ အရေအတွက်နှင့် အမျှ စဝါးဗ်ကုသိုလ် ရရှိမည်ဖြစ်သည်။ စဂ်ျဒဟ်၌ "سُبْحَانَ رَبِّيَ الْأَعْلَى" ရွတ်ဆိုပါက ကျွန်တစ်ယောက်ကို သူကောင်းပြုခြင်း'အကျိုးစဝါးဗ် ရရှိ မည်ဖြစ်သည်။ နမားဇ်ကို အဆုံးသတ်ရန်အတွက် စလာမ်လှည့်လိုက်ပါက ၎င်းသူအဖို့ ဂျန္နသ်၏တံခါးပေါက်ကနေ ဂျန္နသ်ထဲသို့ ဝင်ရောက်နိုင်မည်ဖြစ် သည်။ ဟဇရသ်ဟာစန်ဗဆ္ဆ်ရီ (ﷺ) သခင်က အမိန့်ရှိသည်မှာ နမားဇ်ဝတ်ပြု သောသူအတွက် သီးသန့်ဂုဏ်သိက္ခာများ ရှိပေသည်။ ပထမဂုဏ်သိက္ခာ ကတော့ ပုဂ္ဂိုလ်တစ်ဦးသည် နမားဇ်ဝတ်ပြုရန်အတွက် ရပ်လိုက်ပါက ၎င်းသူ၏ဦးခေါင်းတည့်တည့်မှ မိုးကောင်းကင်အထိ အလ္လာဟ်ရှင်မြတ်၏ ကရုဏာတော်မိုးတိမ်များသည် လေးဘက်လေးလံမှ ဝိုင်းရံထားပေမည်။ ပြီးနောက် ကောင်းမှုများသည် မိုးရွာသွန်းသကဲ့သို့ ရွာသွန်းလိမ့်မည်။ ဖရစ်ရှ်သဟ်များသည်လည်း နမားဇ်ဝတ်ပြုသူအား လေးဘက်လေးလံမှ မိမိတို့၏ အတောင်ပံများဖြင့် လွှမ်းခြုံထားပေမည် ဖြစ်သည်။

ကိုယာမသ်နေ့၌ နမားဇ်ဝတ်ပြုသောသူများအား ဂျန္နသ်ထဲသို့ ဝင်ရောက်ရန်အတွက် အမိန့်ပေးသောအခါ အားလုံးထက်အလျင် အုပ်စုတစ်စုသည် ဂျန္နသ်ထဲသို့ ဝင်ရောက်ကြမည်ဖြစ်ပြီး ၎င်းတို့၏မျက်နှာများ၏လင်းဝင်းတောက်ပမှုသည် နေ၏အလင်းရောင်သဖွယ်ဖြစ်သည်။ ဖရစ်ရှ်သဟ်များက ၎င်းတို့အား မေးမြန်းကြမည်မှာ အသင်တို့သည် မည်သူများနည်း? ဤအုပ်စုက အဖြေပေးမည်မှာ ကျွန်ုပ်တို့သည် မွတ်စ်လင်မ်များဖြစ်ကြပါသည်။ နမားဇ်ကို ထိန်းသိမ်းစောင့်ရှောက်ခြင်းသည် ကျွန်ုပ်တို့၏ အမလ်ဖြစ်ပါသည်။ ဖရစ်ရှ်သဟ်များက ဆက်လက်၍မေးမြန်းကြမည်မှာ နမားဇ်ကို မည်သို့မည်ပုံ ထိန်းသိမ်းစောင့်ရှောက်ကြလေသနည်း။ အဖြေပေးကြမည်မှာ ကျွန်ုပ်တို့သည် အမြဲတမ်းနမားဇ်ငါးကြိမ်၏ အလျင်ဗလီသို့သွား၍ နာမားဇ်အချိန်ကို ထိုင်၍စောင့်မျှော်နေကြပါသည်။ ထိုပုဂ္ဂိုလ်များ၏နောက်တွင် ဒုတိယအုပ်စုတစ်စုသည် ဆွေရားသ်-တံတားပေါ်မှ ဖြတ်သန်းသွားကြပေမည်။ ၎င်းတို့၏မျက်နှာများသည် လပြည့်ညမှာသာသော လမင်းကဲ့သို့ လင်းဝင်း တောက်ပနေလိမ့်မည်။ ဖရစ်ရှ်သဟ်များက ၎င်းတို့အား မေးမြန်းကြမည်မှာ အသင်တို့သည် မည်သူများနည်း။ လောက၌ရှိစဉ်အခါတွင် မည်သည့်ကောင်းမှုများကို ပြုကျင့်ဆောင်ရွက်ခဲ့ကြသနည်း။ ၎င်းတို့ကအဖြေပေးကြမည်မှာ ကျွန်ုပ်တို့သည် နမားဇ်ကို ထိန်းသိမ်းစောင့်ရှောက်ကြသော မွတ်စ်လင်မ်များဖြစ်ကြပါသည်။ ဖရစ်ရှသ်ဟ်များက ဆက်လက်၍ မေးမြန်းကြမည်မှာ အသင်တို့သည် မည်သို့မည်ပုံ နမားဇ်ကို ထိန်းသိမ်းစောင့်ရှောက်ကြလေးသနည်း? ၎င်းမွတ်စ်လင်မ်များက အဖြေပေးကြမည်မှာ ကျွန်ုပ်တို့သည် အဇာန်မဆိုခင် အလျင်ဝိုဇူလုပ်၍ ထိုင်နေကြသည်။ အဇာန်သံကို ကြားသည်နှင့် ဗလီသို့

ရောက် ရှိသွားကြသည်။ ပြီးနောက် နမားဇ်ဝတ်ပြုကြပါသည်။ ထိုပုဂ္ဂိုလ်များ၏ နောက်တွင် တတိယအုပ်စုတစ်စုသည် ပွဲလ်ဆွေရားသ်တံတားပေါ်မှ ဖြတ်သန်းသွားကြမည်။ ၎င်းတို့၏မျက်နှာများသည် ကြယ်တာရာများကဲ့သို့ လင်းဝင်းတောက်ပနေလိမ့်မည်။ ၎င်းသူတို့ကိုလည်း ဖရစ်ရှ်သဟ်များက ဤကဲ့သို့မေးမြန်းကြမည်မှာ အသင်တို့သည် မည်သူများနည်း။ အသင်တို့၏ အမလ်သည် မည်သည့်အရာနည်း? ထိုပုဂ္ဂိုလ်တို့က အဖြေပေးကြမည်မှာ ကျွန်ုပ်တို့သည် အဇာန်ကို နားထောင်းပြီး ဝုဇူပြုကြပါသည်။ ပြီးနောက် ချက်ချင်းဆိုသလို ဗလီသို့ရောက်ရှိသွားကြပါသည်။ ကျွန်ုပ်တို့သည် အမြဲတမ်း "သက်ဗီးရ်အူလာ" ကို မီရန်အတွက် အလေးအနက် ထားကြပါသည်။

ဟဇရသ်အလီ (ﷺ)သခင်က အမိန့်ရှိသည်မှာ -

(၁) အလ္လာဟ်ရှင်မြတ် ကျေနပ်နှစ်သက်ရန်အတွက် အားလုံးထက်အကြီးဆုံး သောအကြောင်းခံမှာ နမားဇ်ပင်ဖြစ်သည်။

(၂) နမားဇ်ဝတ်ပြုမှုသည် ဖရစ်ရှ်သဟ်များက ချစ်ခင်ဖို့အတွက် အကြောင်းခံ ဖြစ်သည်။

(၃) နမားဇ်သည် လွန်လေပြီးသော နဗီတမန်တော်အပေါင်း၏လမ်းစဉ် ဖြစ်လေသည်။

(၄) နမားဇ်သည် အလ္လာဟ်ရှင်မြတ်ကို သိရှိဖို့ရာအတွက် နည်းလမ်း ဖြစ်ပေသည်။

(၅) နမားဇ်သည် အစ္စလာမ်သာသနာတော်၏မဏ္ဍိုင် ဖြစ်လေသည်။

(၆) နမားဇ်သည် ဒိုအာလက်ခံဖို့အတွက် အကြောင်းခံ ဖြစ်သည်။

(၇) နမားဇ်မဖတ်ပဲ မည်သည့်ကောင်းမှုကိုမှ လက်ခံမည်မဟုတ်ပေ။

(၈) နမားဇ်ဝတ်ပြုမှုကြောင့် ရိုဇီရိကွာ၌ ဗရ်ကသ်-မင်္လာ တိုးပွား လေသည်။

(၉) နမားဇ်သည် စိတ်ရိုင်းနှင့် ရှိုင်တွာန်တို့ကို တွန်းလှန်ယှဉ်ပြိုင်ရာ၌ အကြီးမားဆုံးသောလက်နက် ဖြစ်သည်။

(၁၀) နမားဇ်သည် သေဆုံးကွယ်လွန်ချိန်၌ အသက်နှုတ်သိမ်းမည့် ဖရစ်ရှ်သဟ် ထံတွင် နမာဇီအတွက် ညင်သာစွာအသက်နှုတ်သိမ်းရန် အသနားခံပေးမည် ဖြစ်သည်။

(၁၁) နမားဇ်သည် အီမာန့်ရှင်နှလုံးသား၌ လင်းဝင်းမှုဖြစ်ပြီး ကဗရ်ထဲ၌ လင်းဝင်းဖို့အတွက် အကြောင်းခံ ဖြစ်သည်။

(၁၂) နမားဇ်သည် ကဗရ်ထဲ၌ သေသူဘက်မှ “မွန်ကိရ်နကီးရ်” ဖရစ်ရှ်သဟ် နှစ်ပါးအား အဖြေပေးလိမ့်မည် ဖြစ်သည်။

(၁၃) နမားဇ်သည် ကဗရ်ထဲ၌ ကိယာမသ်နေ့အထိ သေသူနှင့် အေးအတူ ပူအမျှ မိတ်ဆွေ ဖြစ်လိမ့်မည်။

(၁၄) နမားဇ်သည်ကိယာမသ်နေ့၌ နမာဇီအပေါ်ဝယ် အရိပ်သဖွယ်ဖြစ်မည်။

(၁၅) နမားဇ်သည် နမာဇီ၏ဦးခေါင်းအတွက် သရဖူဖြစ်၍ ခန္ဓာကိုယ် အတွက် အဝတ်အစား ဖြစ်မည်။

(၁၆) နမားဇ်သည် ကိယာမသ်နေ့၏အမှောင်ထုထဲ၌ အလင်းရောင်ဖြစ်၍ နမာဇီ၏ရှေ့မှသွားမည်ဖြစ်သည်။

(၁၇) နမားဇ်သည် စာရင်းအင်းစစ်ဆေးနေသည့်အချိန်တွင် ဂျန္နမ်၏ကြား၌ အတားအဆီးဖြစ်လိမ့်မည်။

(၁၈) နမားဇ်သည် အလ္လာဟ်ရှင်မြတ်၏ရှေ့တော်မှောက်ဝယ် ခွင့်လွှတ်ပေး ရန်အတွက် အကြောင်းခံဖြစ်ပြီး ထပ်ခါတလဲလဲ အသနားခံပေးမည် ဖြစ်သည်။

(၁၉) နမားဇ်၏ အလေးချိန်သည် ဂိုနာဟ်-ပြစ်မှုဒုစရိုက်အပေါင်းထက် အလေးချိန်သာပိုမည်ဖြစ်သည်။

(၂၀) နမားဇ်သည် ပွလ်ဆွေရားသ်တံတားပေါ်မှ ဖြတ်သန်းသွားလာဖို့ အတွက် ဖြတ်သန်းသွားလာခွင့်လက်မှတ် ဖြစ်လိမ့်မည်။

(၂၁) နမားဇ်သည် ဂျန္နသ်သုခဘုံ၏ ပိတ်နေသောတံခါးများကို ဖွင့်၍ နမာဇီ ကို ဂျန္နသ်ထဲသို့ ပို့ဆောင်ပေးမည့် ဂျန္နသ်၏သော့တံဖြစ်သည်။

(နမားဇ်ကေမစာအိလ်ကာအင်န်စိုင်ကလိုပီဒီယား၊ တွဲ ၄၊ စာ ၂၂၁)

**ဟဇရသ် အဗ္ဗုလ်လိုင်းစ် စမက်ရ်ကန်ဒီ (ﷺ) သခင်က သူ့၏သန်ဗီဟုလ် ဂါဖိလီးန်ကျမ်းထဲ၌ အမိန့်ရှိသည်မှာ သူခိုးတွေထဲမှာ အကြီးဆုံးသူခိုးက နမားဇ်အတွင်း၌ခိုးခြင်းပင် ဖြစ်သည်။ ဆိုလိုသည်မှာ နမားဇ်၏ အရ်ကာန် များကို တိတိကျကျ မဆောင်ရွက်ခြင်းပင် ဖြစ်သည်။

**မုနာဖစ်က်(ဘာသာရေးအရေခြုံသူ)အတွက်အထူးသဖြင့် အေ့ရှာနမားဇ် နှင့် ဖဂျ်ရ်နမားဇ်တို့သည့် ဝတ်ပြုရန်အတွက် အလွန်အင်မတန်မှ လေးလံပေ သည်။ တကယ်တမ်းမှာ ထိုနမားဇ် (၂) ကြိမ်၏ စဝါးဗ်ကုသိုလ်ကို သိရှိကြ မည်ဆိုပါက တရွတ်တိုက်အဖြစ်နဲ့လည်းပဲ ဗလီသို့အရောက်လာကြ၍ ဝတ်ပြုကြမည် ဖြစ်သည်။ ယနေ့ ဝမ်းနည်းစရာကောင်းသည်မှာ နမားဇ်(၅)ကြိမ်စလုံး မွတ်စ်လင်မ်များအပေါ် လေးလံသွားပြီ ဖြစ်သည်။

**ပုဂ္ဂိုလ်(၃)ဦးအား အလ္လာဟ်ရှင်မြတ်သည် အလွန်အင်မတန်မှ နှစ်သက်တော်မူပေသည်။

(၁) တောတောင်ထဲ၌ အဇာန်ဆို၍ တစ်ဦးတည်း နမားဇ်ဝတ်ပြုသောသူ။

(၂) ညဉ့်၏အမှောင်ထု၌ တစ်ဦးတည်း နမားဇ်ဝတ်ပြုသောသူ။

(၃) စစ်ပွဲ၌ လူများထွက်ပြေးနေသောအချိန်တွင် ထွက်ပြေးခြင်းမရှိပဲ စစ်မြေပြင်တွင် မိမိတစ်ဦးတည်း ကြံ့ကြံ့ခံ၍ ရန်သူများနှင့်ရင်ဆိုင်တိုက်ခိုက်ပြီး ရှဟီးဒ် ဖြစ်သွားသောသူ။

(သန်ဗီဟုလ်ဂါဖိလီးန်ကျမ်း၊ စာ ၄၈၂၊ ၄၈၄)

တမန်တော် အိဗ်ရာဟီဗ် (ﷺ) သည် အလွန်ကျော်ကြားသော တမန်တော်ကြီးတစ်ပါး ဖြစ်ခဲ့၏။ ထိုကဲ့သို့သော တမန်တော်ကြီးတစ်ပါးက ပင်လျှင် အလ္လာဟ်ရှင်မြတ်ထံတော်၌ “အရှင်မြတ်သည် ကျွန်တော်မျိုးအား ဆွလာသ်ဝတ်ပြုမှုကို စနစ်တကျ အမြဲတစေ ဆောက်တည်နိုင်သူအဖြစ် ပြုလုပ်ပေးတော်မူပါ”ဟု ဆုတောင်းပတ္ထနာပြုခဲ့၏။ ဤသည့်အချက်ကို ထောက်ရှုခြင်းအားဖြင့် ဆွလာသ်သည် အဘယ်မျှအရေးကြီးသော အစ္စလာမ့်ကျင့်ဝတ်တစ်ပါးဖြစ်သည်ကို ကောင်းစွာသိနိုင်ပေသည်။

رَبِّ اجْعَلْنِي مُقِيمَ الصَّلَاةِ وَمِنْ ذُرِّيَّتِي رَبَّنَا وَتَقَبَّلْ دُعَاءِ.

အို-ကျွန်တော်မျိုးအား မွေးမြူဖန်ဆင်းတော်မူသောအရှင်မြတ် ကျွန်တော်မျိုးအား အမြဲတစေ “ဆွလာသ်” ဝတ်ပြုသူပြုလုပ်တော်မူပါ။ ထိုနည်းတူစွာ ကျွန်တော်မျိုး၏နောင်လာနောင်သားများအနက်မှလည်း (ဆွလာသ်ဝတ်ပြုသူများ ပြုလုပ်တော်မူပါ) ။ အို... ကျွန်တော်မျိုးအား

မွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်၊ အရှင်မြတ်သည် ကျွန်တော်မျိုး၏ ဤဆုမွန်ဒိုအာကို သဘောတူလက်ခံတော်မူပါ။

(ကုရ်အာန်ကျမ်းမြတ် မြန်မာဘာသာပြန်၊ တွဲ ၂၊ စာ ၁၇၁၇

~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~

«لَا يُؤْمِنُ أَحَدُكُمْ حَتَّى يُحِبَّ لِأَخِيهِ مَا يُحِبُّ لِنَفْسِهِ» **المعجم الأوسط للطبراني** (٨/ ١٦٧).

(၃၅) အသင်တို့အနက် မည်သူတစ်ဦးတစ်ယောက်မှ မိမိအတွက် နှစ်သက်သောအရာကို မိမိ၏တခြားသောနောင်တော်အတွက် မနှစ်သက်သေးသမျှ ကာလပတ်လုံးပြည့်ဝသော အီမာန်ရှင် မဖြစ်နိုင်ပေ။

## ရှင်းလင်းချက်

ဟဒီးဆ်တော်၏ အလိုသဘောမှာ အီမာန့်ရှင်တစ်ဦးသည် ဒွန်နယာနှင့်ပတ်သက်သောအရာဖြစ်စေ အာခေရသ်နှင့်ပတ်သက်သောအရာဖြစ်စေ မိမိနှစ်သက်သောအရာတစ်ခုခုအား မိမိ၏အခြားသောညီနောင်မွတ်စ်လင်မ်တစ်ဦးအတွက် နှစ်သက်သောအချိန်မှသာလျှင် ပြည့်ဝသောအီမာန်ရှင်ဖြစ်မည်။ ဒွန်နယာနဲ့ပတ်သက်သောအရာများမှာ ဟလာလ်ရိဇ်ဇ်ရှာဖွေစားသောက်ခြင်း၊ အေဗာဒသ်များများပြုလုပ်ခြင်း၊ သာသနာ့ပညာရယူဆည်းပူးခြင်းတို့ဖြစ်သည်။ အာခေရတ်နှင့်ပတ်သက်သောရာများမှာ ဂျဟန္နမ်မှ လွတ်မြောက်မှုရရှိခြင်း၊ ဂျန္နသ်-သုခဘုံ၌ မြင့်မားသော အဆင့်အတန်းများ ရရှိခြင်းစသည်တို့ဖြစ်သည်။ "ما يحب لنفسه" (မိမိနှစ်သက်သောအရာ၏) အလိုသဘောမှာ ကောင်းသောအရာများကို ဆိုလိုခြင်းဖြစ်သည်။ မကောင်းသော အရာများကို မိမိနောင်တော်မွတ်စ်လင်မ်အတွက် မနှစ်သက်ရပေ။

~~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~~

"ليس الغني عن كثرة العرض، ولكن الغني غنى النفس". **مسند أحمد ت شاكر (٧/ ٣٢٢).**

(၃၆) ချမ်းသားမှုဟူသည် ပစ္စည်းဥစ္စာများပြားခြင်းကို ဆိုလိုသည်မဟုတ်။ ချမ်းသားမှုအစစ်အမှန်သည် စိတ်၏ချမ်းသာမှုသာလျှင် ဖြစ်ပေသည်။

## ရှင်းလင်းချက်

အလိုသဘောမှာ ပစ္စည်းဥစ္စာများပြားခြင်း၊ ဖိမ်ခံပစ္စည်းများနှင့် အလှအပရေးရာဆိုင်ရာပစ္စည်းများ များပြားခြင်းကို ကြွယ်ဝချမ်းသာသည်ဟု စင်စစ်မဆိုနိုင်ပေ။ ကြွယ်ဝချမ်းသာမှုအစစ်အမှန်မှာ စိတ်၏ ချမ်းသာမှုသာလျှင် ဖြစ်ပေသည်။ အကြင်သူ၏စိတ်နှလုံး၌ အပူပင်ကင်းပြီး သောကကင်းရှင်းပါက ထိုသူသည်သာ စစ်မှန်သော ကြွယ်ဝချမ်းသာသူဖြစ်သည်။ ပစ္စည်းဥစ္စာကြွယ်ဝခြင်းကြောင့် အပူအပင်မကင်း သောကရတတ်မအေး ဖြစ်ရလေသည်။ ဟဒီးဆ်တော်တစ်ရပ်၌ လာရှိသည်မှာ ဟဇရသ်ကအဗ် (ﷺ) သခင်က ရစူလွလ္လာဟ် (ﷺ)မိန့်ကြားတော်မူသည်ကို ကျွန်ုပ်ကြားခဲ့သည်မှာ "အွမ္မသ်တိုင်းအတွက် ဖစ်သ်နဟ်ပြဿနာတစ်ခုစီရှိခဲ့ပြီး (ထိုပြဿနာတွင် ၎င်းတို့ နစ်မျောသွားရသည်သာဖြစ်၏) ငါ၏အွမ္မသ်အတွက် ဖစ်သ်နဟ် ပြဿနာမှာ ပစ္စည်းဥစ္စာပင် ဖြစ်သည် "။ ကိုယ်တော်မြတ်(ﷺ)၏ မိန့်မှာတမ်းသည် လုံးဝဥဿုံမှန်ကန်ပေသည်။ မည်သည့်ယုံတမ်းစကားမျှ မဟုတ်ကြောင်းကို နေ့စဉ်တွေ့မြင်နေရသောအကြောင်းများ ဖြစ်သည့် ပစ္စည်းဥစ္စာပြည့်စုံ ကုံလုံမှုမှ ဆိုးပေတေလေခြင်း၊ အတိုးအညွန့်ပေးယူခြင်း၊ ဇေနာမှု ကျူးလွန်ခြင်း၊ ရုပ်ရှင်ဇာတ်သဘင်တို့တွင် သုံးစွဲခြင်း၊ လောင်းကစားခြင်း၊

နိုင့်ထက်စီး နင်းပြုမှုခြင်း၊ လူတို့ကို အထင်အမြင်သေးခြင်း၊ အလ္လာဟ်(ﷻ)၏ ဒီးန်သာသနာတော်ကို လျစ်လျူရှုခြင်း၊ အေဗာဒသ်ခဝပ်မှုအရေးတွင် ပျင်းရိလေးပင်ခြင်း၊ သာသနာရေးရာလုပ်ငန်းဆောင်တာများအတွက် အချိန်မရခြင်း စသည့် အမှုအစုစုက သက်သေပြုပေးလျက် ရှိပေသည်။ မရှိဆင်းရဲသည့်အခါတွင် ထိုသို့သော အဖြစ်ဆိုးမျိုး၏ သုံးပုံတစ်ပုံမဟုတ်၊ လေးပုံတစ်ပုံ မဟုတ်၊ ဆယ်ပုံတစ်ပုံပင် မကြုံမဆုံရတတ်ပေ။ ထို့ကြောင့်လည်း ငွေမရှိလျှင် မိန်းမရှင်၏အချစ်သည်ပင် အရာမထင် ဟူသော ဆိုရိုးစကားရှိထားပေသည်။ ထိုသို့သောအဖြစ်ဆိုးမျိုးနှင့် မကြုံမဆုံကြရလျှင် ပစ္စည်းဥစ္စာတိုးပွားများပြားရေးအတွက် မုချမလွဲပင် သောကဝင်နေပေမည်။

ငွေကျပ်သုံးထောင်ကို တစ်ဦးတစ်ယောက်အား ပေးကြည့်ပါ။ ၎င်းသည် ထိုရရှိလာသောငွေကို တိုးပွားများပြားလာရေးတွင် သောကဝင်ကာ စားရသောက်ရအိပ်စက်နားနေရမှန်းမသိ၊ နမာဇ်မရှိ၊ ဟဂျ်မရှိ၊ ဇကာသ်မရှိ တော့ဘဲ နေ့ရောညပါ ကြီးပွားချမ်းသာရေးအတွက်သာ စဉ်းစားကြံစည်စီမံပေတော့မည်။ ဆိုင်လုပ်ငန်း၏အလုပ်ရှုပ်ထွေးမှုက ၎င်းကိုသာသနာရေးရာကိစ္စများတွင်လည်း ပါဝင်ခွင့်မပေး။ ဆိုင်၏သံယောဇဉ်ကြောင့် ၎င်းသည် အစ္စလာမ်သာသနာအတွက် ခရီးထွက်ခွင့်ကိုလည်း ရနိုင်မည်မဟုတ်ပေ။ ချိန်ခါသမယတိုင်းတွင် မည်သည့်လုပ်ငန်း၌ အကျိုးအမြတ်သာပိုမည်ကို စဉ်းစားကြံစည်နေမည်သာ ဖြစ်သောကြောင့် ရစူလွလ္လာဟ် (صَلَّى اللّٰهُ عَلَيْهِ وَعَلَىٰ آلِهِ وَسَلَّمَ) ၏ ဟဒီးဆ်တော်များတွင် စာသားအမျိုးမျိုးဖြင့် “အကယ်၍ လူသားတစ်ဦးတစ်ယောက်သည် နှစ်တောစာမျှ ပစ္စည်းဥစ္စာရပါက ၎င်းသည် တတိယတောကိုရှာဖွေပေတော့မည်။ လူ၏ဝမ်းဗိုက်ကို ကဗရ်၏မြေကြီးကသာ

ဖြည့်ဆည်းပေးနိုင်ပေသည်”ဟူ၍ လာရှိပေသည်။ မြေကြီးကသာ ဖြည့်ဆည်းပေးမည်ဟူသည် ကဗရ်၏ မြေတွင်းထဲသို့ရောက်ရှိကာမှ သူသည် မိမိ၏ “ရှိလျှင်ပေးပါဦး” ဟူသော တောင်းဆိုချက်ကို တားဆီးနိုင်မည်ကို ဆိုလိုခြင်းဖြစ်ပေသည်။ ဒွန္နယာ လောကတွင် နေရစဉ်အချိန်တိုင်းတွင် ပစ္စည်းများတိုးပွားရေးအတွက်သာ သောကရှိနေပေသည်။ စက်ရုံတစ်ရုံ ကောင်းစွာလည်ပတ်လျက်ရှိ၏။ ယင်းမှ လိုအပ်သည့်အတိုင်းအတာနှင့်အညီ ဝင်ငွေရရှိနေပါလျက် အခြားပစ္စည်းတစ်စုံ တစ်ရာမြင်တွေ့ရသည့်အပေါ် ထိုဘက်ဆီသို့လည်း ခြေလှမ်းလိုက်၏။ တစ်ခု မှ နှစ်ခုဖြစ်သွား၏။ နှစ်ခုမှ သုံးခုဖြစ်သွား၏။ တိုးတက်အောင်မြင်သည့်နှင့် ချဲ့ထွင်ရင်းပင် ဖြစ်ထွန်းမည့်လုပ်ငန်းဟူသမျှအတွက် သောကဖက်လျှက်ရှိတော့ ၏။ တင်းတိမ်ရောင့်ရဲကာ အချိန်အချို့ကို အလ္လာဟ်ရှင်မြတ်အား သတိရသတမှုအတွက် ဖယ်ထုတ်မည်ဟူ၍ အနည်းငယ်မျှပင် မစဉ်းစားတော့ပေ။ ထို့အတွက်ကြောင့် ရစူလွလ္လာဟ်

(ﷺ)က .(١٥/ ٤٦٨) **مسند أحمد مخرجا** «اللَّهُمَّ اجْعَلْ رِزْقَ آلِ مُحَمَّدٍ قُوتًا»

“ယာအလ္လာဟ်- ကျွန်တော်မျိုး၏သားသမီး၏ ရိဇ်ဂ်ရိက္ခာတွင် ဖူလုံမှုရှိတော်မူပါစေ။ လိုအပ်သည့် အတိုင်းအတာထိသာ ရှိပါစေ။ ကျွန်တော်မျိုးတို့၏ သားသမီးများ နစ်မွန်းရစ်မူးမည့် အပိုအလျှံပစ္စည်းကို ပေးသနားတော်မမူပါနှင့် ” ဟူ၍ တောင်းဆိုဒိုအာ ပြုပေးတော်မူခဲ့ပေသည်။

(ဖဇာအေလေဆွဒကာသ်ကျမ်း၊ အတွဲ ၁၊ စာ ၃၃၅ )



"نعمتان مغبونٌ فيهما كثير من الناس، الفراغ والصحة". **مسند أحمد ت شاكر (٣/ ٣٧٧).**

(၃၇) များစွာသောလူတို့သည် နိအ်မသ်စည်းစိမ်(၂)ခုနှင့် ပတ်သက်ပြီး လှည့်ဖြားခံရပေသည်။ ကျန်းမာခြင်း နှင့် အားလပ်ခြင်းဟူသော နိအ်မသ်(၂)ခု ဖြစ်သည်။

## ရှင်းလင်းချက်

အလိုသဘောမှာ ဤနိအ်မသ်တော်(၂)ခု (ကျန်းမာခြင်း နှင့် အားလပ်ခြင်း)တို့သည် လူအများထံ၌ အလွန်ပင်လှည့်ဖြားခံရသောအရာများ ဖြစ်ကြသည်။ ၎င်းအရာနှစ်ခုအား လူတို့သည် မိမိတို့ထံ၌ အမြဲတမ်းရှိနေမည်ဟု မှတ်ယူနေကြပေသည်။ တကယ်တမ်းမှာ ဤကဲ့သို့မဟုတ်ပေ။ ထို့အတွက်ကြောင့် ကျန်းမာနေတဲ့အချိန်နှင့် အားလပ်နေသောအချိန်တို့ကို တန်ဖိုးထားပြီး အမြဲတစေနေထိုင်ရမည့် အာခေရသ်စခန်းအတွက် ကြိုတင်ပြင်ဆင်သင့်ပေသည်။ သို့မှသာလျှင် မိမိ၏နောက်ဆုံးနိဂုံးချုပ်တွင် အရှက်တကွဲအကျိုးနဲ့မှုနှင့် နောင်တတရားတွေ ရလိမ့်မည်မဟုတ်ပေ။

ဟဇရသ် အဗ်ဒုလ္လာဟ်ဗင်န် အဗ္ဗါးစ် (ﷺ)သခင်က ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် (ﷺ) အမျိုးသားတစ်ဦးအား ဆုံးမတော်မူရင်းနှင့် အမိန့်ရှိတော်မူသည်မှာ ငါးခုသောအရာ မဆိုက်ရောမီအလျှင် ငါးခုသောအရာကို တန်ဖိုးထားပါ။

၁။ အိုမင်းရင့်ရော်ခြင်း မဆိုက်ရောက်မီအလျှင် နုပျိုခြင်း။

၂။ မကျန်းမာခြင်းအလျှင် ကျန်းမာခြင်း။

၃။ ဆင်းရဲကြပ်တည်းခြင်းအလျှင် ကြွယ်ဝချမ်းသာခြင်း။
၄။ မအားလပ်ခြင်းအလျှင် အားလပ်ခြင်း။
၅။ သေခြင်းတရား ရောက်မလာမီအလျှင် ဘဝသက်တမ်း။

(မစ္စာဟေ့ရေ့ဟတ်က်၊ တွဲ ၆၊ စာ ၃၂)

ဟဇရသ်အဘူဟုရိုင်ရဟ် (ﷺ)သခင်က ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် (ﷺ)က အမိန့်ရှိတော်မူသည်မှာ အလ္လာဟ်ရှင်မြတ်က အမိန့်ရှိတော်မူသည်။ အို-လူသား အသင်သည် ငါအရှင်မြတ်အား အေဗာဒသ်-(ခဝပ်ကိုးကွယ်မှု)ပြုရန် မိမိကိုယ်ကို မိမိအားလပ်အောင် ပြုလုပ်လေကုန်။ ငါအရှင် သည် အသင့်၏စိတ်နှလုံးအတွင်း၌ စိတ်ချမ်းသာမှုအား ထည့်သွင်းပေးတော်မူမည်။ ဆိုလိုသည်မှာ အသင်၏ ဆင်းရဲဒုက္ခကြပ်တည်းမှု အပေါင်းကို ဝေးကွာအောင် လုပ်ပေးတော်မူမည်။ အကယ်၍ အသင်သည် အားလပ်အောင် မလုပ်ပါက အသင့်လက်အား အလုပ်များထဲတွင် နစ်မွန်းစေမည်။ သို့သော် အသင်၏ကြပ်တည်းမှုကိုလည်း အဆုံးသတ်စေမည် မဟုတ်ပေ။

(မစ္စာဟေ့ရေ့ဟတ်က်၊ တွဲ ၆၊ စာ ၃၁)

~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~

«مَنْ أَهَانَ سُلْطَانَ اللَّهِ فِي الأَرْضِ أَهَانَهُ اللَّهُ». **شرح السنة للبغوي (١٠/ ٥٤)**.

(၃၈) အကြင်သူသည် ကမ္ဘာမြေပထဝီတွင် အလ္လာဟ်ရှင်မြတ် သတ်မှတ်ပေးထားသော အာဏာပိုင်အား အထင်အမြင်သေးရှုပ်ချပါက ထိုသူသည် အလ္လာဟ်ရှင်မြတ်အား အထင်အမြင်သေးရှုပ်ချခြင်းပင် ဖြစ်သည်။

## ရှင်းလင်းချက်

ဤမျက်မှောက်လောကတွင် ဘုရင်များ၊ သမ္မတများကို ဂုဏ်ပေးလေးစားသင့်ပေသည်။ ထိုပုဂ္ဂိုလ်တို့သည် ဒီလောကကြီးတွင် အလ္လာဟ်ရှင်မြတ်၏ ကိုယ်စားလှယ်တော်များ ဖြစ်ကြသည့်အတွက် ၎င်းတို့ကို အထင်အမြင်သေးရှုပ်ချခြင်းသည် အလ္လာဟ်ရှင်မြတ်အား အထင်အမြင်သေးရှုပ်ချခြင်းပင်ဖြစ်သည်။ ဒီအတွက်ကြောင့် ထိုပုဂ္ဂိုလ်တို့ကို အထင်အမြင်သေးခြင်းကနေ ရှောင်ကြဉ်သင့်ပေသည်။

(သတ်ကဲ့မီလုလ်အဒဗ်ကျမ်း)

~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~

«الدَّالُّ عَلَى الْخَيْرِ كَفَاعِلِهِ» **المعجم الأوسط (٣/ ٣٤)**.

(၃၉) ကောင်းမြတ်သောကိစ္စရပ်တစ်ခုကို လုပ်ဆောင်ရန် ညွှန်ပြပေးသောသူသည် ကောင်းမြတ်သောအရာကို လုပ်ဆောင်သူသကဲ့သို့ပင် ဖြစ်ပါသည်။

## ရှင်းလင်းချက်

ဆိုလိုသည်မှာ အကြင်သူသည် ကောင်းမြတ်သောအရာများကို လုပ်ဆောင်ရန် လမ်းညွှန်ပေးပြီး ၎င်း၏လမ်းညွှန်မှုကြောင့် လူများသည် ကောင်းမြတ်သောအရာများကို ပြုကျင့်ဆောင်ရွက်ကြပါက ထိုလမ်းညွှန်ပေးသောသူသည်လည်းပဲ ထိုပြုကျင့်ဆောင်ရွက်သောသူတိုင်းနှင့်အညီ စဝါးဗ် ရရှိမည်ဖြစ်ပါသည်။ ကောင်းမှုများ ပြုကျင့်ရန် တိုက်တွန်းဆော်ဩခြင်းနှင့် မကောင်းမှုများမှ တားမြစ်ခြင်းတို့သည် အီမာန်ရှင်တိုင်း၏ နိမိတ်လက္ခဏာပင် ဖြစ်သည်။

ကျမ်းမြတ်ကုရ်အာန်၌ အလ္လာဟ်အရှင်မြတ်က အမိန့်ရှိတော်မူသည်မှာ -

وَالْمُؤْمِنُونَ وَالْمُؤْمِنَاتُ بَعْضُهُمْ أَوْلِيَاءُ بَعْضٍ يَأْمُرُونَ بِالْمَعْرُوفِ وَيَنْهَوْنَ عَنِ الْمُنْكَرِ.

(အီမာန်ရှင်အမျိုးသား၊ အမျိုးသမီးအပေါင်းတို့သည် အချင်းချင်းအုပ်ထိန်းသူများ ဖြစ်ကြပေသည်။ တစ်ဦးနှင့်တစ်ဦး အပြန်အလှန်ကောင်းရာညွှန်ကြား မကောင်းရာတားမြစ်သောအလုပ်ကို လုပ်ဆောင်ကြပေသည်။)

ကိုယ်တော်မြတ် (ﷺ)က အမိန့်ရှိတော်မူသည်မှာ တချို့လူတို့သည် ကောင်းရာကိုညွှန်ကြား မကောင်းရာကိုတားမြစ်သော ပုဂ္ဂိုလ်များ ဖြစ်ကြပါသည်။ အလ္လာဟ်ရှင်မြတ်က ကောင်းရာကိုညွှန်ကြား မကောင်းရာကိုတားမြစ်သောသူများအဖြစ် ပြုလုပ်ပေးခံရသောသူတို့အတွက် ကောင်းခြင်းမင်္ဂလာရှိပေသည်။ ထို့နောက် မကောင်းရာကိုညွှန်ကြား ကောင်းရာကိုတားမြစ်ပိတ်ပင်သောသူများအဖို့ ပျက်စီးဆုံးရှုံးခြင်း ရှိပေသည်။

လူအချို့ ကျူးလွန်သောအပြစ်-ဂိုနာဟ်ကြောင့် ရှိသမျှသူအားလုံး အပြစ်ပေးမခံရပေ။ သို့သော် မကောင်းမှုကို လူအများက ကျူးလွန်ကြပြီး မည်သူကမှ တားမြစ်ပိတ်ပင်ခြင်းမရှိပါက အပြစ်ဒဏ်သည် အားလုံးပေါ်သို့ သက်ရောက်လိမ့်မည်။ ထိုသို့အပြစ်ဒဏ်သင့်သည့်အခါ၌ ကျူးလွန်သူရော မကျူးလွန်သူပါ အားလုံးပြစ်ဒဏ်သင့်မည် ဖြစ်သည်။

ဖကီဟ်အဘူလ်လိုင်းစ် (ﷺ)သခင်က အမိန့်ရှိသည်မှာ ဟဇရသ်ယူရှအ် (ﷺ)သခင်အား အလ္လာဟ်ရှင်မြတ်က အမိန့်ရှိတော်မူသည်။ ငါအရှင်သည် အသင်၏ အသင်းသားများထဲမှ သူတော်စင်သူတော်ကောင်း (၄၀၀၀၀)နှင့် မကောင်းမှု ကျူးလွန်ကြသောသူပေါင်း (၆၀၀၀၀)တို့ကို အပြစ်ဒဏ်ခတ်တော်မူမည်။ ဟဇရသ်ယူရှအ်က လျှောက်ထားသည်မှာ မကောင်းမှုကျူးလွန်သူတွေကို အပြစ်ဒဏ်ခတ်သည်မှာ မှန်ပါသည်။ သူတော်စင်သူတော်ကောင်းများကို အဘယ်မှားယွင်းမှုကြောင့် ပြစ်ဒဏ်ခတ်တော်မူလေသနည်း? အလ္လာဟ်ရှင်မြတ်က အမိန့်ရှိတော်မူသည်မှာ သူတော်စင်များက မကောင်းမှုများ ကျူးလွန်နေကြသည်ကို မတားမြစ်ကြသည့်အပြင်

မကောင်းမှုဟုပင် မမြင်မှတ်ကြပေ။ သို့သာမက အပြစ်ကျူးလွန်သူတို့နှင့် အတူတူရောနှော၍ပင် စားနေကြ သောက်နေကြပေသည်။

(သန်ဗီဟုလ်ဂါဖီလီန်းကျမ်း၊ စာ ၈၆)

အို! အလ္လာဟ်ရှင်မြတ် ကျွန်တော်မျိုးတို့အား ကောင်းရာကို ညွှန်ကြား မကောင်းရာကိုတားမြစ်နိုင်သော သောင်ဖီးက်စွမ်းအား ချီးမြှင့်တော်မူပါ။ (အားမီးန်)

~~~~~~~~~~~~~~~~~~~~~
~~~~~~~~~~~~~~~~~~~~~

«اللَّهُمَّ بَرِّدْ قَلْبِي بِالْبَرَدِ وَالثَّلْجِ وَالْمَاءِ الْبَارِدِ، وَنَقِّنِي مِنَ الْخَطَايَا كَمَا نَقَّيْتَ الثَّوْبَ الْأَبْيَضَ مِنَ الدَّنَسِ». **المعجم الأوسط للطبراني (٦/ ٣٣١).**

(၄၀) ကိုယ်တော်မြတ် (ﷺ)က ဒိုအာဆုမွန်တောင်းခံတော်မူသည်မှာ အို-အလ္လာဟ်ရှင်မြတ် ကျွန်တော်မျိုး၏စိတ်နှလုံးအား ရေခဲနှင်းခဲနှင့် အေးမြသောရေတို့ကို အကြောင်းခံပြီး အေးမြကြည်လင်စေတော်မူပါ။

အို-အလ္လာဟ်ရှင်မြတ် ဖြူဖွေးနေသောအဝတ်အစား၌ ပေကျံနေသော အညစ်အကြေးများကို စင်ကြယ်သွားစေသကဲ့သို့ ကျွန်တော်မျိုး၏စိတ်နှလုံးသားအတွင်း၌ရှိသောအပြစ်ဂိုနာဟ်ဟူသရွေ့ကိုလည်း စင်ကြယ်သန့်ရှင်းစေတော်မူပါ။ (အာမီန်း)

## ရှင်းလင်းချက်

ဤဒိုအာသည် ကိုယ်တော်မြတ်(ﷺ)တောင်းခံခဲ့သော တောင်းဆုတော်ဖြစ်လေသည်။ ကိုယ်တော်မြတ်ကြီး တောင်းခံတော်မူခဲ့သလို ကျွန်တော်တို့လည်းပဲ တောင်းခံသင့်ပါတယ်။ အလွန်အင်မတန်မှ ပြည့်စုံလှသော တောင်းဆုတော်တစ်ရပ်ဖြစ်ပါသည်။

ဟဇရသ်အဘူဟုရ်ိုင်ရာ (رَضِيَ اللَّهُ عَنْهُ)သခင်က အမိန့်ရှိတော်မူသည်မှာ အေဗာဒသ်များ၌ ဒိုအာတောင်းဆု၏ ပမာမှာ အစားအစာများ၌ ဆားပါဝင်ဖို့အရေးကြီးသကဲ့သို့ ဖြစ်ပါသည်။

ဟဇရသ်စအဒ်ဗင်န်အဗီဝက္ကားဆ် (رَضِيَ اللَّهُ عَنْهُ)သခင်က ကိုယ်တော်မြတ် (ﷺ) အား လျှောက်ထားသည်မှာ ကျွန်တော်မျိုးသည် ဒိုအာတောင်းခံသော်လည်း လက်ခံခြင်း မခံရပေ။ ကိုယ်တော်မြတ်က အမိန့်ရှိတော်မူသည်မှာ ဟရာမ်

ပစ္စည်းဥစ္စာတွေကနေ ရှောင်ကြဉ်လေကုန်။ အဘယ်ကြောင့်ဆိုသော် အကြင်သူ၏ ဝမ်းဗိုက်ထဲ၌ ဟရာမ်ဖြစ်သော အစားတစ်လုပ်ရှိနေပါက ရက်ပေါင်း(၄၀)အထိ ၎င်းသူ၏တောင်းဆုဒိုအာသည် လက်ခံခြင်းမခံရပေ။ နောက်တစ်ချက်အနေဖြင့် ဒိုအာတောင်းခံသူသည် အလျှင်မလိုသင့်ပေ။ အလ္လာဟ်ရှင်မြတ်သည် ဒိုအာတောင်းခံသူတိုင်း၏ ဒိုအာကိုလက်ခံတော်မူပေသည်။ သို့ဖြစ်ပေရာ တချို့သူ၏ ဒိုအာသည် ချက်ချင်းပင်လက်ခံခြင်းခံရပြီး တချို့သူ၏ဒိုအာသည် အနည်းငယ်အချိန်ကြာမြင့်ပြီးမှ ထင်ရှားလာတတ်ပေသည်။ ထို့နောက် တချို့သူတို့၏ဒိုအာများသည် ကေယာမသ်နေ့မှ ထင်ရှားလာမည်ဖြစ်ပါသည်။

အဗ္ဗဒွလ္လာဟ်အန်သွာကီ (ﷺ)သခင်က အမိန့်ရှိသည်မှာ နှလုံးသား ကို ကုစားဖို့ရာအတွက် ဆေးဝါးသည် အရာ(၅)ခု၌ ရှိပေသည်။

၁။ သူတော်စင်သူတောင်ကောင်းများ၏ ထိုင်ဝိုင်းတွင်ပါဝင်းခြင်း။

၂။ ကုရ်အာန်ကျမ်းမြတ်ဖတ်ရွတ်ခြင်း။

၃။ ဟရာမ်ပစ္စည်းဥစ္စာများမှ ရှောင်ကြဉ်ခြင်း။

၄။ ည၏နောက်ဆုံးယံ၌ထ၍ သဟဂ်ျဂျဒ်နမားဇ်ဝတ်ပြုခြင်း။

၅။ နံနက်အာရုံဦးအချိန်၌ အားအင်ချည့်နဲ့သူနဲ့တကွ တောင်းဆုဒိုအာတောင်းခံခြင်းတို့ ဖြစ်သည်။

(သန်ဗီဟုလ်ဂါဖိလီးန်ကျမ်း၊ စာ ၂၉၀၊ ၂၉၃၊ ၂၉၄ )

«اللهُمَّ إِنِّي أَسْأَلُكَ الْهُدَى وَالتُّقَى، وَالْعَفَافَ وَالْغِنَى». صحيح مسلم (٤/ ٢٠٨٧).

အို အလ္လာဟ်ရှင်မြတ်၊ ကျွန်တော်မျိုးသည် အရှင့်ထံတော်ပါးမှ ဟေဒါယသ်လမ်း အမှန်တရားကိုသော်လည်းကောင်း၊ "သက်္ကဝါ" တရား

ကိုသော်လည်းကောင်း၊ အရှက်သိက္ခာနှင့် ကာအိန္ဒြေကိုသော်လည်းကောင်း၊ စိတ်ချမ်းသာမှုအပေါင်းကိုသော်လည်းကောင်း တောင်းခံပါသည်။(အာမီန်း)

اللهم صلِّ على سيدنا محمد المخصوص بجوامع الكلم وخواص الحكم، وآخر دعوانا أن الحمد لله رب العالمين.

**(၆.၃.၂၀၂၂ )နေ့တွင်ပြီးဆုံးသည်။**
**မုဟာမ္မဒ်အစ်ရ်ဖ်ဖားန်**
**(သထုံ)**

## ကျမ်းကိုးများ

- ကုရ်အာန်ကျမ်းမြတ် မြန်မာဘာသာပြန်ကျမ်း
- မအာရိဖွလ်ကုရ်အာန်ကျမ်း
- မဇ္ဇာဟော့ရေ့ဟတ်က်ကျမ်း
- မွန်သခဗ်အဟာဒီးဆ်ကျမ်း
- သန်ဗီဟွလ်ဂါဖိလီးန်ကျမ်း
- သတ်က်မီလွလ်အဒဗ်ကျမ်း
- ဟာဒိယ္ယသုလ်လစ်သွာလိဗီးန်ကျမ်း
- ဗစ်ခရေးမိုသီးကျမ်း
- ခွတ်သ်ဗာသေ့ဖကီးရ်ကျမ်း
- ဟယာသွတ်စ်ဆွဟာဗဟ်ကျမ်း
- နမားဇ်ကေမစာအိလ်ကာအင်န်စိုင်ကလိုပီဒီယား

# နိုးဆော်ချက်

အစ္စလာမ်ဘာသာ သာသနာပြန့်ပွားရေးနှင့် မိမိကိုယ်ကိုမိမိ ပြုပြင်ရန်အတွက်မှာ မွတ်စ်လင်မ်တိုင်း ကြိုးပမ်းရမည့် အရေးကြီးသောတာဝန်တစ်ရပ်ဖြစ်ပေသည်။ အလ္လာဟ်ရှင်မြတ်အား ခဝပ်ကိုးကွယ်၍ အရှင့်အမိန့်တော်ကိုလိုက်နာရန် အဖန်ဆင်းခံခဲ့ရသော မွတ်စလင်မ်များကိုယ်တိုင်သည်ပင် အစ္စလာမ့် အဆုံးအမများကို မေ့လျော့လျက်ရှိပြီး မွတ်စလင်မ်တိုင်းသည် အစ္စလာမ်ဘာသာ သာသနာအတွက် သောကထား၍ ကြိုးပမ်းခြင်းမပြုကယင်း၏အကျိုးဆက်ကား အီမာန်ယုံကြည်မှု အားနည်းလာ၍ ပျက်စီးဆုံးရှုံးမှုနှင့် မလွဲမသွေရင်ဆိုင်ရအံ့။ မိမိတစ်ယောက်တည့် ကောင်းမွန်ရုံဖြင့် ပျက်စီးခြင်းဘေးမှ လွတ်ကင်းနိုင်မည်မဟုတ်။ မိမိ၏မိသားစု၊ အိမ်နားနီးချင်းအသိုင်းအဝန်းများနှင့် အခြားမွတ်စ်လင်မ် ညီအစ်ကိုများအတွင်လည်း ကြိုးပမ်းရန် တာဝန်ရှိပေသည်။ ထို့ကြောင့် အစ္စလာမ်ဘာသာဝင်တိုင်းသည် ဘာသာရေးစာပေများကို ဖတ်ရှုကျင့်သုံးခြင်းအားဖြင့် အစ္စလာမ်နှင့် အစ္စလာမ့်စာပေပြန့်ပွားရေးအတွက် ကြိုးပမ်းရာတွင် တစ်တပ်တစ်အား ပါဝင်ပါရန် နိုးဆော်အပ်ပါသည်။